ငွေရည်ပုလဲကုမ္ပဏီအုပ်စု

ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်

အမှတ် (၃) သကြားစက်ရုံ စီမံကိန်း

ကုန်ကြမ်းသီးနှံ ကြံရရှိရေးနှင့် ကြံစိုက်ပျိုးမှု အထွက်တိုးရေးအတွက် အစီအစဉ်များ

**နိဒါန်း**

၁။ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်သည် ကုမ္ပဏီပိုင် သကြားစက်ရုံများအား အောက်ပါရည်မှန်းချက်များ ချမှတ်၍ ဆောင်ရွက်လျက်ရှိပါသည်-

(က) ဒေသဖွံ့ဖြိုးတိုးတက်ရေး

(ခ) ဒေသနေပြည်သူများ လူမှုပေါင်းသင်းဆက်ဆံရေးနယ်ပယ် ကျယ်ဝန်းပြီး လူနေမှုဘဝ မြင့်မားရေး

(ဂ) ဒေသနေပြည်သူများ အလုပ်အကိုင် အခွင့်အလမ်းများ ရရှိရေး

(ဃ) စုစုပေါင်း ပြည်တွင်းအသားတင်ထုတ်လုပ်မှု (GDP) တိုးတက်မြင့်မားရေး

**ကြံကုန်ကြမ်းရရှိမှု အခြေအနေ**

၂။ ကုမ္ပဏီအနေဖြင့် တောင်သူများ၏ စိုက်ပျိုးရေး၊ လူမှုရေးပံ့ပိုးမှုများအား နှစ်စဉ်တိုးမြှင့်ဆောင်ရွက်ပေးလျက် ရှိသဖြင့် ရှမ်းပြည်နယ်၊ ကျောက်မဲခရိုင်၊ နောင်ချိုမြို့နယ်အတွင်း ကြံစိုက်ပျိုးထုတ်လုပ်မှုမှာလည်း တစ်နှစ်ထက်တစ်နှစ် ပိုမိုတိုးမြင့်လာခဲ့ပါသည် -

| | ကြံစိုက်ဧရိယာ (ဧက) | ကြံစိုက်တောင်သူ (ဦးရေ) |
|---|---|---|
| ၂၀၀၇-၂၀၀၈ | ၅၂၇၄ | ၉၃၇ |
| ၂၀၀၈-၂၀၀၉ | ၁၀၈၈၃ | ၁၄၈၆ |
| ၂၀၀၉-၂၀၁၀ | ၁၁၀၁၀ | ၁၄၉၂ |
| ၂၀၁၀-၂၀၁၁ | ၉၈၁၅ | ၁၄၆၆ |
| ၂၀၁၁-၂၀၁၂ | ၁၅၉၆၈ | ၂၀၈၀ |
| ၂၀၁၂-၂၀၁၃ | ၂၄၅၄၇ | ၃၀၅၄ |
| ၂၀၁၃-၂၀၁၄ | ၂၄၀၈၂ | ၃၃၉၅ |
| ၂၀၁၄-၂၀၁၅ | ၃၃၇၇၈ | ၄၀၂၇ |

| | ကြံစိုက်ဧရိယာ (ဧက) | ကြံစိုက်တောင်သူ (ဦးရေ) |
|---|---|---|
| ၂၀၁၅-၂၀၁၆ | ၃၅၂၃၃ | ၁၈၆၉ |
| ၂၀၁၆-၂၀၁၇ | ၄၁၆၂၀ | ၄၃၄၅ |

၃။ ၂၀၁၇-၂၀၁၈ ကြံရာသီကာလတွင် ကြံစိုက်ဧရိယာ (၅၈၁၈၀. ၅)ဧကနှင့် ကြံစိုက်တောင်သူ (၅၈၉၈)ဦး သို့ တိုးတက်၍ ကြံစိုက်ပျိုးခဲ့ပါသည်။

၄။ ဆက်လက်၍လည်း ကြံစိုက်ဧရိယာ (ဧက)မှာ အောက်ဖော်ပြပါအတိုင်း တိုးတက်လာနိုင်မည်ဖြစ်ကြောင်း ခန့်မှန်းပါသည်-

| | ကြံစိုက်ဧရိယာ (ဧက) |
|---|---|
| ၂၀၁၈-၂၀၁၉ | ၆၅၀၀၀ |
| ၂၀၁၉-၂၀၂၀ | ၇၂၀၀၀ |
| ၂၀၂၀-၂၀၂၁ | ၇၉၀၀၀ |
| ၂၀၂၁-၂၀၂၂ | ၈၆၀၀၀ |
| ၂၀၂၂-၂၀၂၃ | ၉၃၀၀၀ |
| ၂၀၂၃-၂၀၂၄ | ၁၀၀၀၀၀ |
| ၂၀၂၄-၂၀၂၅ | ၁၁၀၀၀၀ |
| ၂၀၂၅-၂၀၂၆ | ၁၂၀၀၀၀ |

**ကြံစိုက်ပျိုးရေးအတွက် ပံ့ပိုးကူညီမှုများ**

၅။ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်သည် ကြံတောင်သူများ ကြံစိုက်ပျိုးရာတွင် အဆင်ပြေစေရန်အတွက် တစ်ဧကလျှင် ထွက်ရှိမည့် ခန့်မှန်းကြံတန်ချိန် တန်ဖိုး၏ (၃၀%)အား စိုက်ပျိုးစရိတ်ငွေအဖြစ် ထုတ်ချေးပေးခြင်း၊ တစ်ဧကလျှင် ကြံမျိုးချေးမြေသြဇာ (၂)အိတ်အား အခမဲ့ ဖြန့်ဖြူးပံ့ပိုးပေးခြင်းနှင့် ဓာတ်မြေသြဇာများကို စက်ရုံသို့ ကြံပေးသွင်းသည့်အချိန်မှသာ ခုနှိမ်သည့်စနစ်ဖြင့် အကြွေးရောင်းချပေးသွားမည် ဖြစ်ပါသည်။

၆။ ကုမ္ပဏီ၏ စိုက်ပျိုးရေးပညာရှင်များမှ ကြံတောင်သူများ၏ ကြံစိုက်ကွင်းများသို့ သွားရောက်၍ စိုက်ပျိုးရေး နည်းပညာများကိုလည်း ကူညီပံ့ပိုးဆောင်ရွက်ပေးမည် ဖြစ်ပါသည်။

၇။ ကြံမျိုးကောင်းမျိုးသန့်များဖြစ်သည့် K-95/84, K-91.2.056, 283, K-92, KPS, LK, Phil, VMC, Co-96032, Co-1287, Triton, Z-10, 368, YT-93/159, 236, Roc 16, Roc 22 များအား ကြံတောင်သူများ

ရရှိစိုက်ပျိုးနိုင်စေရန်အတွက် နေပြည်တော် ပျဉ်းမနား(ရေဆင်း)ရှိ စိုက်ပျိုးရေးသုတေသနဦးစီးဌာနနှင့် ကြံသုတေသနမျိုးပွားခြံမှလည်းကောင်း၊ ထိုင်းနိုင်ငံမှလည်းကောင်း၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံမှလည်းကောင်း ရယူသယ်ဆောင်၍ ဖြန့်ဖြူးပေးမည် ဖြစ်ပါသည်။

၈။ ကြံစိုက်ပျိုးမှုပြီးစီး၍ မခုတ်ယူမီကာလအတွင်း ကြံပင်များ ရောဂါပိုးမွှားအန္တရာယ်မှ ကာကွယ်နိုင်ရန်အတွက် လိုအပ်သည့် ပိုးသတ်ဆေးများ ပံ့ပိုးပေးမည် ဖြစ်ပါသည်။

၁၀။ ကြံခုတ်သိမ်းရာတွင် လုပ်သားအခက်အခဲရှိသည့် ကြံတောင်သူများအား ကုမ္ပဏီပိုင် ကြံခုတ်စက်ဖြင့် ခုတ်သိမ်းကူညီပေးမည် ဖြစ်သည့်အပြင်၊ ခုတ်သိမ်းပြီးသည့်ကြံများအား စက်ရုံသို့ပို့ဆောင်ရာတွင်လည်း လိုအပ်ပါက ကုမ္ပဏီပိုင်မော်တော်ယာဉ်များဖြင့် ကူညီသယ်ပို့ဆောင်ရွက်ပေးမည်ဖြစ်ပါသည်။

၉။ ကျောက်မဲမြို့နယ်နှင့် ရပ်စောက်မြို့နယ်များမှ စက်ရုံသို့ လာရောက်ရောင်းချသည့် ကြံတောင်သူများ၏ ကြံများအား ဝယ်ယူရာတွင် သယ်ယူစရိတ်အား အပိုဆောင်းပေး၍ ဝယ်ယူမည် ဖြစ်ပါသည်။

၁၀။ ကြံတောင်သူများ အသုံးပြုသည့် ကုန်ထုတ်လမ်းများအား ပြုပြင်ခြင်း၊ တိုးချဲ့ဖောက်လုပ်ခြင်း၊ မြေလမ်းမှ ကျောက်ချောလမ်း၊ ကွန်ကရစ်လမ်း၊ ကတ္တရာလမ်းများသို့ အဆင့်မြှင့်တင် လမ်းခင်းခြင်း များအား နှစ်စဉ်ပြင်ဆင် ဆောင်ရွက်၍ သယ်ယူပို့ဆောင်ရေးလုပ်ငန်းများ အဆင်ပြေချောမွေ့စေရန် ပံ့ပိုးကူညီမည် ဖြစ်ပါသည်။

၁၁။ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်မှ အစိုးရအဖွဲ့ အကြီးအကဲများ၊ ဌာနဆိုင်ရာ အကြီးအကဲများအား ဖိတ်ကြား၍ ကြံတောင်သူများအား တွေ့ဆုံပြီး ပညာပေးဟောပြောပွဲ၊ နည်းပညာရှင်းလင်းပွဲများ ကျင်းပကာ အသိပညာပေး ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

**နိဂုံး**

၁၂။ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်သည် "ကြံတောင်သူများနှင့် စက်ရုံတို့ နှစ်ဦးနှစ်ဖက် ပြိုင်တူအကျိုးစီးပွားဖြစ်ထွန်းရေး"အား ဦးတည်လျက် ကုမ္ပဏီ၏ရည်ရွယ်ချက်များအား အဆက်မပြတ် အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

ဒါရိုက်တာအဖွဲ့
ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်

ရှမ်းပြည်နယ် နောင်ချိုဒေသ
၂၀၁၇-၂၀၁၈ ကြံစိုက်ပျိုးမှု အခြေအနေ

| စဉ် | ကြံအမျိုးအမည် | စိုက်ဧက | မှတ်ချက် |
|---|---|---|---|
| 1 | K-95/84 | 5641 | |
| 2 | K-91.2.056 | 2534 | |
| 3 | 283 | 79 | |
| 4 | K-92 | 2976.5 | |
| 5 | KPS | 10473 | |
| 6 | LK | 1947.5 | |
| 7 | Phil | 7636.5 | |
| 8 | VMC | 39.5 | |
| 9 | Co-96032 | 7 | |
| 10 | Co-1287 | 13726 | |
| 11 | Triton | 6314 | |
| 12 | Z-10 | 2710.5 | |
| 13 | 368 | 1455 | |
| 14 | YT-93/159 | 2512.5 | |
| 15 | 236 | 111.5 | |
| 16 | Roc 16 | 9 | |
| 17 | Roc 22 | 8 | |
| စုစုပေါင်း | | **58180.5** | |

မှတ်ချက် -

စိုက်ပျိုးသည့်ကျေးရွာ စုစုပေါင်း - 229

ကြံတောင်သူဦးရေ စုစုပေါင်း - 5898

# နောင်ချိုမြို့နယ်၊ ကျောက်မဲမြို့နယ် နှင့် ရပ်စောက်မြို့နယ်အတွင်း ကြံစိုက်ပျိုးမှု အခြေပြမြေပုံ




## ရည်ညွှန်းချက်

၁။ ခရိုင်ခြား
၂။ မြို့နယ်ခြား
၃။ မြို့တည်နေရာ
၄။ ကျေးရွာအုပ်စု
၅။ ကားလမ်း
၆။ မီးရထားလမ်း
၇။ မြစ်/ချောင်း
၈။ အမှတ်(၁)ဆင်းရွှေလီသကြားစက်တည်နေရာ
၉။ အမှတ်(၂)ဆင်းရွှေလီသကြားစက်တည်နေရာ
၁၀။ လက်ရှိကြံစိုက်ဧရိယာ

# နောင်ချိုမြို့နယ် ကျေးရွာအုပ်စု
# အညွှန်းပြမြေပုံ

N

နောင်ချိုမြို့နယ်
စကေး ၁ လက်မ = ၄ မိုင်

ရထားလမ်းဆုံ
ဒိုးပင်
ဂလားကွဲ
ကျောက်ကြီး
ဆိတ်ဖူး
ဘိုဒို
သန့်ဆွေးကျင်း
မြောက်ကုန်းကြီး
ဟိုခဲ
ပင်တီး
အထက်ကြူအင်း
ထီဆုံ
ဘုံးသယ်
အုမ္မဒါး
လုံရှုံး
နောင်ချိုမြို့
ကုန်းစံ
ကျောက်မဲမြို့နယ်
လားရှိုးသို့
ဂုဏ္ဍလေး
မျက်ရှင်းနေ
ညံ့တော
ဘုန်းသာ
လုံတယ်
ကံ့ကောင်း
သရက်ကုန်း
ကံကြီး
သန့်ဆွေး
ကုန်းကြီးရွာမ
ကြို့မှ်နိုင်
ရွှေမုဒ္ဒော
မန္တလေးတိုင်း
ညောင်ထောက်
မန္တလေးသို့
မိုးပုတ်
တောင်ရှည်
ရေတွင်းကြီး
မြစ်ငယ်မြစ်
ရပ်စောက်မြို့နယ်

## ရည်ညွှန်းချက်

၁။ ခရိုင်ခြား
၂။ မြို့နယ်ခြား
၃။ မြို့တည်နေရာ
၄။ ကျေးရွာအုပ်စု
၅။ ကားလမ်း
၆။ မီးရထားလမ်း
၇။ မြစ်/ချောင်း
၈။ အမှတ်(၁)ဆင်းရှေလီသကြားစက် တည်နေရာ
၉။ အမှတ်(၂)ဆင်းရှေလီသကြားစက် တည်နေရာ

# ငွေရည်ပုလဲကုမ္ပဏီအုပ်စု၊ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက် အသစ်တည်ဆောက်မည့် တစ်နေ့လျှင် ကြံတန်ချိန် (၁၂၀၀၀)ကြိတ်ဝါးမည့် သကြားစက်ရုံ ကုန်ထုတ်လမ်းကြောင်းပြမြေပုံ




စကေး ၁း၅၀၀၀၀

နောင်ချိုမြို့

လားရှိုးသို့

မန္တလေးသို့

## ရည်ညွှန်းချက်

 ကားလမ်း

 မီးရထားလမ်း

 ကုန်ထုတ်လမ်းကြောင်း

 မြစ်/ချောင်း

 ကျေးရွာ

 စက်ရုံတည်နေရာ





ကြံခုတ်စက် (Harvester)




ပြည်သူ့လွှတ်တော်ဒုတိယဥက္ကဋ္ဌ ဦးထွန်းထွန်းဟိန်းမှ အမှာစကားပြောကြားပုံ




ရှမ်းပြည်နယ် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ဝန်ကြီးဒေါက်တာညီညီအောင်မှ အမှာစကားပြောကြားပုံ



တက်ရောက်ကြသည့်ဧည့်ပရိသတ်များပုံ



တက်ရောက်ကြသည့်ဧည့်ပရိသတ်များပုံ



# ငွေရည်ပုလဲကုမ္ပဏီအုပ်စု

# ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်

တစ်ရက်ကြိတ်တန်ချိန် (၁၂၀၀၀) ကြိတ်ဝါးမည့်

အမှတ်(၃)သကြားစက်ရုံအသစ် တည်ဆောက်ရေး (အင်းဝိုင်း)၏

Waste Water Treatment နှင့် ပြာမှုန်ဖမ်းယူသည့် စနစ်အတွက်

ဆောင်ရွက်မည့် အစီအမံများ

ဆင်းရွှေလီ သကြားစက်အမှတ်(၃)အနေဖြင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု မရှိစေရေးအတွက် အထူးစီမံ ဆောင်ရွက်မည် ဖြစ်ပါသည် ။ သို့ဖြစ်ပါ၍ လေထုထဲသို့ စွန့်ထုတ်သော မီးခိုးအရည်အသွေးကို ထိန်းချုပ်သည့်စနစ်ပါဝင်သော ဘွိုင်လာအမျိုးအစားကို အသုံးပြုထားပါသည် ။ ရေသုံးစွဲရာတွင် ရေသံသရာ လည်သည့် စနစ်ကို အသုံးပြုထားပြီး ပြန်လည်သန့်စင်ပြီးမှ စွန့်ပစ်သည့် နည်းစဉ်ကို အသုံးပြုထားပါသည် ။

## စွန့်ထုတ်မီးခိုးမှ ပြာမှုန်ဖမ်းယူသည့် စနစ်

၁။ အဓိက Complete Combustion ဖြစ်သော အဆင့်မြင့်ဘွိုင်လာကို အသုံးပြုခြင်းအားဖြင့် စွန့်ထုတ်မီးခိုး တွင် ပြာမှုန်နည်းနိုင်သမျှ နည်းသည်ကို တွေ့ရှိရမည် ဖြစ်ပါသည် ။ ၎င်းအနည်းငယ်မျှပါသော ပြာမှုန်ဖမ်းရန် အတွက် မီးခိုးခေါင်းတိုင် နှင့် ဘွိုင်လာမီးတိုက်ကြားတွင် ရေဖျန်းပြာမှုန်ဖမ်းစနစ်ကို ထည့်သွင်းတည်ဆောက် သွားမည်ဖြစ်ပါသည် ။ ၎င်းမှာ မီးတိုက်မှ ထွက်သော မီးခိုးအား နော်ဇယ်ဖြင့် ရေဖျန်းပေးပြီး မီးခိုးတွင်ပါသော ပြာမှုန်များအား ဖမ်းယူစုပုံစေသည့် စနစ်ဖြစ်ပါသည် ။ ၎င်းပြာမှုန်ဖမ်းကိရိယာ (Dust Collector) မှ စွန့်ထုတ် သော ပြာရည်များအား အနည်စစ်ကန် ( ပြာကန် ) တွင် အနည်ထိုင်စေပြီး ပြာမှုန်မပါသော ရေအဖြစ် အဆင့်ဆင့် စစ်ယူ၍ ၎င်းပြာမှုန်ဖမ်းကိရိယာတွင် ပြန်လည်အသုံးပြုမည် ဖြစ်ပါသည် ။ ထို့အပြင် ၎င်းအနည်စစ်ကန် သို့ ကြိတ်စင် ၊ ဘွိုင်လာ ၊ တာဘိုင် တို့မှ Bearing အအေးခံရေများ ပြန်လည် ဝင်ရောက်စေခြင်းအားဖြင့်လည်း စွန့်ပစ်ရေ ပြန်လည်အသုံးချသည့်စနစ်ဖြစ်ပါသည် ။ ၎င်းပြာမှုန်ဖမ်းကိရိယာ တပ်ဆင်ခြင်းအားဖြင့် လေထုအတွင်း စွန့်ထုတ်သည့် မီးခိုးတွင် ပြာခါတ်ပါဝင်မှု မရှိသလောက်ဖြစ်စေပြီး ကာဗွန်ဒိုင်အောက်ဆိုဒ် ဓါတ်ငွေ့ပါဝင်မှု မရှိသည်ကို တွေ့ရှိရမည်ဖြစ်ပါသည် ။ ၎င်းမှဖမ်းယူရရှိသော ပြာမှုန်အား Biocomposer မြေသြဇာထုတ်လုပ်ရာ တွင် ပြန်လည်အသုံးပြုခြင်းဖြင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုအား ကာကွယ်မည်ဖြစ်ပါသည် ။

## စက်ရုံသုံးရေနှင့်ပြန်လည်ပြုပြင်သုံးစွဲမှု

၂။ စက်ရုံသုံးရေအား အနီးရှိချောင်းမှ သွယ်ယူမည်ဖြစ်ပြီး ပထမဦးစွာ အနည်ထိုင်ကန်သို့ ဝင်ရောက်စေမည် ဖြစ်ပါသည် ။ ၎င်းအနည်ထိုင်ကန်မှ လျှံကျသော ရေအား စက်ရုံ၏ ရေအေးကန်အတွင်း ဝင်ရောက်စေပြီး စက်ရုံ၏ ဌာနစိတ်အသီးသီးတွင် ဖြန့်ဝေအသုံးပြုမည် ဖြစ်ပါသည် ။ အဓိကအားဖြင့် Boiler သုံးရေနှင့် အအေးခံ ရေအဖြစ် အသုံးပြုမည် ဖြစ်ပါသည် ။ ကြိတ်စင်ဌာနစိတ်တွင် ဘယ်ရင်အအေးခံရေအဖြစ် အဓိက အသုံးပြုပြီး ၎င်းမှ စွန့်ပစ်ရေအား ဘွိုင်လာပြာစစ်ကန်တွင် စွန့်ပစ်ခြင်းအားဖြင့် ပြန်လည်အသုံးပြုမည် ဖြစ်ပါသည် ။ ဘွိုင်လာ ဌာနစိတ်အနေဖြင့် ၎င်းရေအေးကန်မှ တင်ပို့သောရေအား Chemical Dozing ဖြင့် သန့်စင်၍ ဘွိုင်လာသုံးရေအဖြစ် အဓိကအသုံးပြုပါသည် ။ ၎င်းအပြင် တာဘိုင်ဌာနစိတ်သို့ ပို့၍ ဘယ်ရင်အအေးခံ ရေအဖြစ်လည်း အသုံးပြုပါသည် ။ တာဘိုင်ဌာနစိတ်မှ စွန့်ထုတ်သော ဘယ်ရင်အအေးခံရေနှင့် ဆီအအေးခံရေ အား Cooling Tower( အအေးခံကိရိယာ )တွင် အအေးခံ၍ ပြန်လည် အသုံးပြုပါသည် ။ သို့ဖြစ်၍၎င်းဌာနစိတ် များတွင် စွန့်ပစ်ရေမရှိဘဲ ရေသံသရာလည်၍ အသုံးပြုမည်ဖြစ်ပါသည် ။

၃။ ကြံရည်ကျို ၊ သကြားချက်ဌာနများတွင် စက်ရုံသုံးရေအဖြစ် အသုံးပြုသော်လည်း ပမာဏနည်းသည့်အပြင် ၎င်းဌာနစိတ်များမှ ထွက်ရှိသည့် စွန့်ပစ်ရေအား ပြာစစ်ကန်တွင် ဝင်ရောက်စေခြင်းဖြင့် ဘွိုင်လာပြာမှုန်ဖမ်းစနစ်တွင် ပြန်လည် အသုံးပြုမည်ဖြစ်ပါသည် ။ သကြားချက်ရာတွင် လေဟာနယ်ဖြစ်စေရန် အသုံးပြုသောရေမှာ ပမာဏအများဆုံးဖြစ်ပြီး ၎င်းရေမှာ မည်သည့်အညစ်အကြေးမှ ပျော်ဝင်ခြင်းမရှိဘဲ ရေသံသရာလည်၍ အသုံးပြုမည် ဖြစ်ပါသည် ။ သကြားချက်ရာတွင် ဖြစ်ပေါ်လာသော အခိုးအငွေ့များကို ရေအားဖြင့် ဖျန်း၍ လေဟာနယ် ဖြစ်ပေါ်စေပါသည် ။ တနည်းအားဖြင့် အခိုးအငွေ့များကို ရေကစုပ်ယူပြီးဖြစ်၍ ၎င်းမှစွန့်ပစ်ရေမှာ အပူချိန်မြင့်တက်နေမည် ဖြစ်ပါသည် ။၎င်းရေအား Cooling Tower ရှိသောရေကန်သို့ ပြန်လည်သွယ်ယူပြီး အအေးခံပါသည် ။ ၎င်းရေအား ပြန်လည်အသုံးပြုခြင်းအားဖြင့် ပြင်ပသို့ စွန့်ထုတ်မှုမရှိသည်ကို တွေ့ရှိရပါမည် ။ စက်ရုံအတွင်း သန့်ရှင်းရေးပြုလုပ်ခြင်း ၊ စက်ပစ္စည်းများ ၊ သံကန်များ ဆေးကြောခြင်းမှ ထွက်ရှိလာသော ဆေးကြောရေသာလျှင် စွန့်ထုတ်ပါသည် ။ ထိုသို့ စွန့်ထုတ်ရာတွင်လည်း ချောင်းအတွင်းသို့ တိုက်ရိုက် စွန့်ထုတ်ခြင်းမရှိဘဲ စွန့်ပစ်ရေကန် တဆင့်ခံ၍ ၎င်းတွင် အနည်အနှစ်ထိုင်စေပြီးမှ လျှံကျရေသာလျှင် စွန့်ပစ်မည် ဖြစ်ပါသည် ။ ၎င်းစွန့်ပစ်ရေကန်အားလည်း အချိန်မှန် ထုံးဖြူးပေးခြင်း ၊ ၎င်းရေကန်ဘေးတွင် ကာဗွန်ဒိုင်အောက်ဆိုဒ် စုပ်ယူအားကောင်းသော အပင်များ စိုက်ပျိုးထားခြင်းဖြင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုကို ကာကွယ်ပေးမည် ဖြစ်ပါသည် ။

၄။ ကြံရာသီစက်လည်ပတ်စဉ်ကာလအတွင်း သုံးစွဲမည့်ချောင်းရေ၊ ပြာကန်ရေ၊Recycle ကန်ရေတို့အား အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု)လမ်းညွှန်ချက် (NEQEGs) Parameter များအတိုင်း လစဉ်ဓာတ်ခွဲတိုင်းတာစစ်ဆေးပြီးရလဒ်မှတ်တမ်းများအား သက်ဆိုင်ရာ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ ပေးပို့အစီရင်ခံတင်ပြသွားမည်ဖြစ်ပါသည်။ အလားတူ စက်ရုံ၏ အခိုး၊ အငွေ့ထုတ်လွှတ်မှုကိုလည်း တိုင်းတာရေးကိရိယာများတပ်ဆင်ပြီး မှတ်တမ်းထားရှိ၍ ပေးပို့အစီရင်ခံ သွားပါမည်။ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း လုပ်ထုံး လုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်နှင့်ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်သည့်အမိန့်ကြော်ငြာများကိုလည်း လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၅။ ကြံရည်ကျိုဌာနစိတ်မှ By Product ဖြစ်သော ကြံရည်စစ်၍ အနည်ထိုင်စွန့်ထုတ်သော ကြံမြှုပ်ချေးအား ကြံတောင်သူများအတွက် Biocomposer ထုတ်လုပ်ဖြန့်ဖြူးပါသည် ။ သို့ဖြစ်ပါ၍ ပတ်ဝန်းကျင်သို့ စွန့်ပစ်မှုမရှိဘဲ ပြန်လည်တန်ဖိုးမြှင့် အသုံးပြုခြင်းအတွက် သဘာဝပတ်ဝန်းကျင် ညစ်ညမ်းမှုကို ကာကွယ်မည် ဖြစ်ပါသည် ။

# စက်ရုံရေသုံးစွဲမှု စနစ်



Treatment Water
Mill House
Boiler House
Process House
Bearing Cooling
Water Treatment
Pan Boiling
Pump
Turbine
Boiler Water
Dust Collector
Cooling Tower
Bearing Cooling & Oil Cooler
Ash Pool
Cleaning Water
Pump
Turbine Cooling Tower
Filtration
Settlement Tank
Drain Out

## ငွေရည်ပုလဲသကြား ကုမ္ပဏီလီမိတက်
## တစ်ရက်လျှင် ကြံတန်ချိန် (၁၂၀၀၀)ကြိတ်ဝါးမည့် သကြားစက်ရုံအသစ်မှ ထွက်ရှိသော စွန့်ပစ်ရေများအား ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်စေရေးအတွက် စီမံဆောင်ရွက်မှုများ

သကြားစက်ရုံအသစ်မှ ကုန်ထုတ်လုပ်မှု ဆောင်ရွက်စဉ်ကာလအတွင်း စက်ရုံအနေဖြင့် ဘွိုင်လာနှင့် ကြံရည်ကျိုဌာနစိတ်မှ စွန့်ပစ်ရေများ ထွက်ရှိပါသည်။ ယင်းစွန့်ပစ်ရေများကို စက်ရုံစတင် တည်ထောင်စဉ်ကပင် ပတ်ဝန်းကျင်ကို ညစ်ညမ်းမှု မဖြစ်စေရေးအတွက် စနစ်တကျ အောက်ပါအတိုင်း စွန့်ပစ်ရေများအား စီမံဆောင်ရွက်ထားရှိပါသည်။

ဘွိုင်လာမှ ထွက်ရှိသော စွန့်ပစ်ရေများ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်စေရေးအတွက် စီစဉ်ဆောင်ရွက်မှုများ

ဤစက်ရုံတွင် အသုံးပြုမည့် ဘွိုင်လာကို ခေတ်မှီနည်းစနစ်ဖြင့် အပြည့်အဝ လောင်ကျွမ်းစေခြင်း (Complete Combustion) ၊ လုံလောက်သော အမှုန်ထိန်းချုပ်မှု (Dust Control)နှင့် လေထုညစ်ညမ်းစေမည့် ဓါတ်ငွေ့ထိန်းချုပ်မှုစနစ် ($Co_2$ Control)စသည့် ကိရိယာများ ပါဝင်သော ဘွိုင်လာကို တည်ဆောက်အသုံးပြုပါမည်။ ထို့အပြင် တည်ဆောက်မည့် ခေါင်းတိုင်ကိုလည်း အမြင့် (91m) တည်ဆောက်မည် ဖြစ်ပါသည်။

လူထုကျန်းမာရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် လေထုအရည်အသွေးတို့ကို မထိခိုက်စေရန် အတွက် ကြံဖတ်လောင်စာများအား မီးတိုက်ခန်း (Combustion Chamber)အတွင်း၌ (95%)လောင်ကျွမ်းစေပြီး နောက် လောင်ကျွမ်းမှု မရှိသော အမှုန်အမွှားနှင့် ပြာနုများ၊ ချော်ပြာများကို မီးတိုက်ခန်း၌ ပင် ဆွဲထုတ်ဖယ်ရှားသွားမည် ဖြစ်ပါသည်။ ကျန်မီးခိုးနှင့် အလွန်သေးငယ်သော အမှုန်အမွှား အညစ်အကြေးများကို လေစုပ်ပန်ကာဖြင့် စုပ်ထုတ်၍ ဘင်ကျူရီပိုက် (Venturi Pipe)ဖြင့် ဖိအားမြှင့်စေပြီး အစစ်ခံကိရိယာ (Filter) အိုးပေါ်မှ ဒေါင်လိုက် ဝင်ရောက်စေသည်။ ဝင်လာသော မီးခိုးများအား နော်ဇယ်တပ်ထားသော ညာရစ်ရေပန်းဖြင့် အရှိန်ပြင်းစွာ ဖြန်းချပါသည်။ ထိုသို့ဖြန်းခြင်းအားဖြင့် မီးခိုးတွင် ပါဝင်သော အမှုန်အမွှားများသည်လည်းကောင်း၊ ($NO_2$, $CO_2$,CO)စသည့် ဓါတ်ငွေ့များ ရေဖြင့် ဓါတ်ပြု၍လည်းကောင်း၊ ရေတွင်ပျော်ဝင်၍လည်းကောင်း၊ အနယ်အနစ် အဖြစ် စုပုံကျဆင်းစေခြင်းဖြင့် စွန့်ထုတ်ပါသည်။

ဘွိုင်လာမှ အအေးခံရန်အတွက် အသုံးပြုသော ရေများကိုလည်း ရေသန့်စင်မှုစနစ်ကို အသုံးပြု၍ ရေကိုလှည့်လည် အသုံးပြုခြင်း (Recycle)စနစ်ဖြင့် ပြန်လည် အသုံးပြုမည် ဖြစ်ပါသည်။ ယင်းစနစ်ဖြင့် သန့်စင်ပြီးသော ရေသည် သောက်သုံးရေအဖြစ်ဖြင့် သုံးစွဲနိုင်ပြီး ရေသုံးစွဲမှု ပမာဏကိုလည်း လျှော့နည်းစေပါသည်။

ထို့ပြင် ဓါတ်ငွေ့များတွင် ပါဝင်သော အမှုန်အမွှားများကို အနည်စစ်ကိရိယာ (High Voltage Electrostatic Precipitator, H.V.E.P)ဖြင့် ထပ်မံဖမ်းယူခြင်းကြောင့် ထွက်လာသော မီးခိုးသည် ($NO_2$, $CO_2$, CO) စသည့် ဓါတ်ငွေ့များ ပါဝင်မှု အလွန်လျော့ကျ နည်းပါးစေပြီး (98%)သန့်စင်ပြီး မီးခိုးဖြူအဖြစ် ခေါင်းတိုင်မှ တဆင့် ပတ်ဝန်းကျင်လေထုသို့ စွန့်ထုတ်ပါသည်။ ခေါင်းတိုင်မှ စွန့်ထုတ်သည့် မီးခိုးတွင် ပါဝင်သည့် အခိုးအငွေ့တွင် အညစ်အကြေးနှင့် အမှုန်အမွှားပါဝင်မှုသည် အပြည်ပြည်ဆိုင်ရာ သတ်မှတ်ထားသည့် စံချိန်စံညွှန်းများနှင့်အညီ ဆောင်ရွက်မည် ဖြစ်ပါသည်။

ကျိုချက်ရုံမှ ထွက်ရှိသော စွန့်ပစ်ရေများအား ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်စေရေးအတွက် စီစဉ်ဆောင်ရွက်မှုများ

ကျိုချက်ရုံရှိ ကြံမြှုပ်ချေးစစ်သည့် ကိရိယာတွင် ကြံမြှုပ်ချေးပိတ်စများအား ရေနွေးဖြင့် ဆေးကြောပါသည်။ ၎င်းဆေးကြောရေများကို ပြင်ပသို့ စွန့်ပစ်ထုတ်ပစ်ခြင်းမရှိဘဲ ပြန်လည် အပူပေးခြင်း၊ အနည်ထိုင်စေခြင်းဖြင့် အရည်ကြည်ကို ပြန်လည်ရရှိအောင် ပြုလုပ်ပါသည်။ ၎င်းအရည်ကြည်များကို ရေနွေးအစား ကြံမြှုပ်ချေးစစ်သည့် ကိရိယာတွင် ပြန်လည် အသုံးပြုခြင်းအားဖြင့် ရေနွေးသုံးစွဲမှုကို လျော့ကျစေခြင်း၊ ပြင်ပသို့ ကြံမြှုပ်ချေးပိတ်စဆေးရေများ လုံးဝစွန့်ပစ်ခြင်းမရှိ သဖြင့် ပတ်ဝန်းကျင်ကိုလည်း ညစ်ညမ်းမှု မဖြစ်စေတော့ပါ။

သကြားစက် စက်ရုံဝန်းကျင်တွင် ကျွန်းပင်၊ ရေမနေပင်၊ ရေသင်းဝင်ပင်နှင့် စားပင် သီးပင်၊ အရိပ်ရပင်များ စိုက်ပျိုးထားရှိမည် ဖြစ်ပါသည်။ ပန်းမာလာနှင့် မြက်ခင်းစနစ်တကျ စိုက်ပျိုးထားမည့်အပြင် သန့်ရှင်းသော ပတ်ဝန်းကျင်များဖြစ်အောင် ဥယျာဉ်စက်ရုံတစ်ခုသဖွယ် ဖန်တီးတည်ဆောက်ထားသော သဘာဝပတ်ဝန်းကျင်ကို ထိန်းသိမ်းစောင့်ရှောက်သွားမည် ဖြစ်ပါသည်။

ထို့ပြင် စက်ရုံပိုင် ကြံခင်းများ၏ စည်းရိုးများတွင် ကျွန်းပင်၊ ရေမနေပင်၊ ရေသင်းဝင်ပင်နှင့် ဝါးပင်များကို စိုက်ပျိုးကာ လေထုအတွင်း $CO_2$ ပါဝင်မှု လျော့နည်းစေရန် ရည်ရွယ်၍ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်ရေးကို စနစ်တကျ ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

# ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်

တစ်ရက်ကြံတန်ချိန်(၁၂၀၀၀)ကြိတ်ဝါးမည့်

အမှတ်(၃)သကြားစက် (အင်းဝိုင်း)စီမံကိန်းတည်ဆောက်ရန် လိုအပ်သည့်

လျှပ်စစ်ဓါတ်အား ကိုယ်ပိုင် ထုတ်လုပ်သုံးစွဲမည့် အစီအစဉ် တင်ပြခြင်း

## လျှပ်စစ်ဓါတ်အားကိုယ်ပိုင်ထုတ်လုပ်သုံးစွဲမည့် အစီအစဉ်

- ကြံကြိတ်ဖတ်ကို လောင်စာအဖြစ် အသုံးပြုပြီး Bagasse Boiler (180 t/h, 10.5 Mpa(a), 540°C Feed water temperature: 165°C) နှစ်လုံးဖြင့် **40 MW** (C40-10/0.3, 3000 r/min, Inlet steam temperature 530°C တာဘိုင်နှင့် **30 MW** (B 30-10/0.3, 3000 r/min, Inlet steam temperature 530° တာဘိုင် နှစ်လုံးတို့မှ စုစုပေါင်း လျှပ်စစ်ဓါတ်အား အများဆုံး **70 MW** ထုတ်ယူသုံးစွဲနိုင်မည် ဖြစ်ပါသည်။
- အရံ အဖြစ် 2000 KVA Generator ၅လုံး 1100 KVA Generator ၁လုံး 500 KVA Generator ၁လုံး ထားရှိအသုံးပြုသွားမည် ဖြစ်ပါသည်။



# ငွေရည်ပုလဲကုမ္ပဏီအုပ်စု

# ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်

အမှတ် (၃) သကြားစက်ရုံ စီမံကိန်း

## Corporate Social Responsibility (C.S.R)

## လူမှုရေးဆိုင်ရာ တာဝန်ယူဆောင်ရွက်မှု

## အစီအစဉ်

၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ


NGWE YI PA LÈ SUGAR CO., LTD.



NO. (62), 15th STREET, BET (87-88) STREET, MANDALAY. TEL: 02-31941, 09-91007169
NO. (157), 33rd STREET, BET (75-76) STREET, MANDALAY, MYANMAR. TEL: 02-71424

ငွေရည်ပုလဲကုမ္ပဏီအုပ်စု

ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်

အမှတ် (၃) သကြားစက်ရုံ စီမံကိန်း

Corporate Social Responsibility (C.S.R)

လူမှုရေးဆိုင်ရာ တာဝန်ယူဆောင်ရွက်မည့်အစီအစဉ်

**နိဒါန်း**

၁။ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်သည် ကုမ္ပဏီ၏စက်ရုံလုပ်ငန်းများတည်ရှိရာ ဒေသတွင် ပြည်သူ အကျိုးပြုလုပ်ငန်းများဖြစ်သော ပညာရေး၊ လူမှုရေး၊ လမ်းတံတားကဏ္ဍများအတွက် ဆောင်ရွက်လျက်ရှိပါသည်။

**ဒေသဖွံ့ဖြိုးရေးအတွက် လူမှုရေးဆိုင်ရာ တာဝန်ယူဆောင်ရွက်မည့်အစီအစဉ်**

(Corporate Social Responsibility)

၂။ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်အနေဖြင့် ရှမ်းပြည်နယ်၊ ကျောက်မဲခရိုင်၊ နောင်ချိုမြို့နယ်၊ ကုန်းကြီး ရွာမကျေးရွာအုပ်စု၊ အင်းဝိုင်းဒေသတွင် တစ်ရက်လျှင် ကြံတန်ချိန် (၁၂၀၀၀)ကြိတ်ခွဲနိုင်သည့် အမှတ် (၃)သကြား စက်ရုံအား တည်ဆောက်၍ စီးပွားရေးလုပ်ငန်းများ ဆောင်ရွက်လုပ်ကိုင်ပါက လူမှုရေးဆိုင်ရာ တာဝန်ယူ ဆောင်ရွက်မှု အစီအစဉ်အနေဖြင့် **အသားတင်အမြတ်ငွေ၏ အနည်းဆုံး (၂%)အား** ထည့်ဝင်သုံးစွဲ၍ ပညာရေး၊ ကျန်းမာရေး၊ လူမှုရေး၊ လမ်းတံတား စသည့်ဒေသအကျိုးပြုလုပ်ငန်းများနှင့် သဘာဝဘေးအန္တရာယ်ကာကွယ်ရေး ကဏ္ဍများအတွက် လှူဒါန်းထောက်ပံ့ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ ဒေသခံများ၏ ပညာရေးကဏ္ဍဖွံ့ဖြိုးတိုးတက်ရေးအတွက် ပတ်ဝန်းကျင်ကျေးရွာများရှိ အောက်ဖော်ပြပါ စာသင်ကျောင်းများ စာသင်ကြားရန် ကျောင်းဆောင်များ၊ ပရိဘောဂများ လှူဒါန်းထောက်ပံ့ခြင်း၊ ဆရာ၊ ဆရာမများ နေထိုင်ရန် နေအိမ်အဆောင်များ ဆောက်လုပ်လှူဒါန်းခြင်း၊ တစ်ကိုယ်ရေ ကျန်းမာရေးဆိုင်ရာ အဆောက်အအုံများ ဆောက်လုပ်လှူဒါန်းခြင်း၊ စာရေးကိရိယာများ၊ ကျောင်းဝတ်စုံများ လှူဒါန်းထောက်ပံ့ခြင်းများ ဆောင်ရွက်သွားမည် ဖြစ်ပါသည်-

(က) အင်းဝိုင်းကျေးရွာရှိ အခြေခံပညာ အလယ်တန်း(ခွဲ) စာသင်ကျောင်း
(ခ) ငုက္ကလေးကျေးရွာရှိ အခြေခံပညာ မူလတန်း စာသင်ကျောင်း
(ဂ) တောင်ကျကျေးရွာရှိ အခြေခံပညာ မူလတန်း စာသင်ကျောင်း

(ဃ) ကုန်းကြီးရွာမကျေးရွာရှိ အခြေခံပညာ မူလတန်း စာသင်ကျောင်း
(င) ပလောင်ကုန်းကျေးရွာရှိ အခြေခံပညာ မူလတန်း စာသင်ကျောင်း
(စ) တဲတိုက်ကျေးရွာရှိ အခြေခံပညာ မူလတန်း စာသင်ကျောင်း
(ဆ) လယ်ကြီးတောကျေးရွာရှိ အခြေခံပညာ မူလတန်း (ခွဲ) စာသင်ကျောင်း
(ဇ) သဖန်းကိုင်းကျေးရွာ ဘုန်းတော်ကြီးသင် ပရဟိတ စာသင်ကျောင်း
(ဈ) ကံကြီးသီလရှင် စာသင်တိုက်နှင့် ပရဟိတ စာသင်ကျောင်း
(ည) နောင်ချိုမြို့ ဘိုးဘွားရိပ်သာ

၄။ အင်းဝိုင်းကျေးရွာရှိ အခြေခံပညာ အလယ်တန်း (ခွဲ) စာသင်ကျောင်းမှ ဆရာ၊ ဆရာမများ နေထိုင်ရန် အလျား ၂၄ ပေ × အနံ ၁၆ ပေ × အမြင့် ၁၁ ပေ (ခန့်မှန်းတန်ဖိုး ကျပ်သိန်း ၉၀ ကျော်)ရှိ နေအိမ်တစ်ထပ်လိုင်းခန်း (၂)ခန်းအား ဆောက်လုပ် လှူဒါန်းပါမည်။

၅။ အမှတ် (၃)သကြားစက်ရုံတွင် ကျန်းမာရေးဆေးပေးခန်း တည်ဆောက်ဖွင့်လှစ်၍ စက်ရုံဝန်ထမ်းများနှင့် အတူ စက်ရုံပတ်ဝန်းကျင်ရှိ အင်းဝိုင်းကျေးရွာ၊ ငှက္ကလေးကျေးရွာ၊ တောင်ကျကျေးရွာ၊ ကုန်းကြီးရွာမကျေးရွာ၊ ပလောင်ကုန်းကျေးရွာ၊ တဲတိုက်ကျေးရွာ၊ လယ်ကြီးတောကျေးရွာ၊ ပါဟဲကျေးရွာများမှ ဒေသခံပြည်သူများအား ကျန်းမာရေးစောင့်ရှောက်မှု ဆေးကုသပေးခြင်းနှင့် နောင်ချိုမြို့နယ်ဆေးရုံ၊ ဆေးပေးခန်းများသို့ လိုအပ်ပစ္စည်းများ ထောက်ပံ့လှူဒါန်းခြင်းများဖြင့် ကျန်းမာရေးကဏ္ဍ ဖွံ့ဖြိုးတိုးတက်စေရန် ဆောင်ရွက်ပါမည်။

၆။ အမှတ် (၃)သကြားစက်ရုံ၏ ကြံကြိတ်ဖတ်လောင်စာများအား အသုံးပြု၍ ထုတ်လုပ်သည့် စက်ရုံ၏ လျှပ်စစ်ဓါတ်အားဖြင့် စက်ရုံပတ်ဝန်းကျင်ရှိ အင်းဝိုင်းကျေးရွာ၊ ငှက္ကလေးကျေးရွာ၊ တောင်ကျကျေးရွာ၊ ကုန်းကြီးရွာမကျေးရွာ၊ ပလောင်ကုန်းကျေးရွာ၊ တဲတိုက်ကျေးရွာ၊ လယ်ကြီးတောကျေးရွာ၊ ပါဟဲကျေးရွာများမှ နေအိမ်များသို့ (၁၂)လရာသီ၊ (၂၄)နာရီပတ်လုံး လျှပ်စစ်မီးအခမဲ့ဖြန့်ဖြူးပေးခြင်း၊ လျှပ်စစ်မီးကြိုးသွယ်တန်းပေးခြင်း၊ ထရန်စဖော်မာတပ်ဆင်ပေးခြင်း၊ သောက်သုံးရေကန်၊ အများသုံးရေကန်များ ဆောက်လုပ်လှူဒါန်းခြင်းနှင့် ကျေးရွာ ဘုန်းကြီးကျောင်း၊ သီလရှင်ကျောင်းများသို့ လိုအပ်သည်များအား လှူဒါန်းခြင်း၊ ကျေးရွာများ၏ ဘာသာရေး ပွဲလမ်းသဘင်များ ကျင်းပနိုင်ရန် ပံ့ပိုးကူညီပေးခြင်း၊ ကျေးရွာစာကြည့်တိုက်များ တည်ထောင်ဖွင့်လှစ်ပေးခြင်း များဖြင့် ပတ်ဝန်းကျင်ဒေသ၏ လူမှုဘဝဖွံ့ဖြိုးတိုးတက်ရေးအတွက် ဆောင်ရွက်ပါမည်။

၇။ အမှတ် (၃)သကြားစက်ရုံ ပတ်ဝန်းကျင်ရှိ ဆက်သွယ်သည့်လမ်းများအား ပြုပြင်ခြင်း၊ တိုးချဲ့ဖောက်လုပ်ခြင်း၊ မြေလမ်းမှ ကျောက်ချောလမ်း၊ ကွန်ကရစ်လမ်း၊ ကတ္တရာလမ်းများသို့ အဆင့်မြှင့်တင် လမ်းခင်းခြင်း၊ တံတားများ

ဆောက်လုပ်ခြင်းများဖြင့် ကျေးရွာများ၏ လမ်းတံတားကဏ္ဍ ဖွံ့ဖြိုးတိုးတက်စေရေး ဆောင်ရွက်ပါမည်။ တဲတိုက်ကျေးရွာအနီးတွင် အလျား ၂၀ ပေ × အနံ ၂၃ ပေ × အမြင့် ၆ ပေ (ခန့်မှန်းတန်ဖိုး ကျပ် ၇၅သိန်းကျော်)ရှိ အာစီကွန်ကရစ်တံတား ဆောက်လုပ်လှူဒါန်းခြင်းတို့ကို ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၈။ အင်းဝိုင်းကျေးရွာရှိ ငှက္ခလေးကျေးရွာ၊ တောင်ကျကျေးရွာ၊ ကုန်းကြီးရွာမကျေးရွာ၊ ပလောင်ကုန်းကျေးရွာ၊ တဲတိုက်ကျေးရွာ၊ လယ်ကြီးတောကျေးရွာ၊ ပါဟဲကျေးရွာများ စသည့်ပတ်ဝန်းကျင်ကျေးရွာများတွင် မီးဘေးအန္တရာယ်နှင့် သဘာဝဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင်လည်း အမှတ်(၃)သကြားစက်ရုံအနေဖြင့် ပံ့ပိုးကူညီ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၉။ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက် ဖွဲ့စည်းပါဝင်သည့် ငွေရည်ပုလဲကုမ္ပဏီအုပ်စုသည် ကုမ္ပဏီ၏ စက်ရုံများတည်ရှိရာဒေသအတွင်း ကျောင်းသား/ကျောင်းသူများ၏ ပညာရည်ဖွံ့ဖြိုးတိုးတက်စေရေးအတွက် "ငွေရည်ပုလဲ ပညာရေးဖောင်ဒေးရှင်း"အဖွဲ့အား ၂၀၁၂ ခုနှစ်၊ ဇန်နဝါရီလတွင် စတင်ဖွဲ့စည်းခဲ့ပြီး၊ ၂၀၁၃ ခုနှစ်၊ ဇူလိုင်လ (၃၀)ရက်နေ့တွင် ပြည်ထဲရေးဝန်ကြီးဌာန၏ အသင်းအဖွဲ့ဖွဲ့စည်းခွင့် မှတ်ပုံတင်အမှတ် (၂၁၀၉)ဖြင့် တရားဝင်ဖွဲ့စည်းခွင့်ရရှိခဲ့ပါသည်။ ကုမ္ပဏီ၏ စက်ရုံများတည်ရှိရာဒေသမှ **အခြေခံပညာ အထက်တန်းအား ထူးချွန်စွာအောင်မြင်၍ ပညာဆက်လက် သင်ယူနိုင်စွမ်းမရှိသည့် ဆင်းရဲနွမ်းပါးသော ကျောင်းသား/သူများအား နှစ်စဉ်ရွေးချယ်ပြီး လစဉ်ပညာသင်စရိတ်များထောက်ပံ့၍ ဘွဲ့ရသည်အထိ တက္ကသိုလ်ပညာများ ပံ့ပိုးသင်ယူစေလျက်ရှိပါသည်။** ငွေရည်ပုလဲပညာရေးဖောင်ဒေးရှင်းအဖွဲ့သည် ၂၀၁၂ ခုနှစ်၊ ဇန်နဝါရီလမှစတင်၍ ဒေသတွင်း ပညာရေးထောက်ပံ့လှူဒါန်းမှုများ ဆောင်ရွက်လျက်ရှိပြီး (၃၀၊၉၊၂၀၁၈)ရက်နေ့ထိ ပညာရေးစရိတ် **၁၇၈,၉၅၂,၅၃၀/-** ထောက်ပံ့လှူဒါန်းခဲ့ပြီးဖြစ်ပါသည်။ ၂၀၁၈-၂၀၁၉ ပညာသင်နှစ်တွင် ငွေရည်ပုလဲ ပညာရေးဖောင်ဒေးရှင်းသည် ကျောင်းသား/ကျောင်းသူ (၄၁)အားရွေးချယ်၍ ပညာသင်စရိတ်ထောက်ပံ့ကာ တက္ကသိုလ်ပညာရပ်များ သင်ကြားစေလျက်ရှိပါသည်။ အမှတ် (၃) သကြားစက်ရုံတည်ဆောက်ပြီးစီးပါကလည်း ကျောင်းသား/ကျောင်းသူ အရေအတွက်အား တိုးမြှင့်ကာ ပညာသင်စရိတ်ထောက်ပံ့သွားမည် ဖြစ်ပါသည်။

၁၀။ စက်ရုံမှ ထုတ်လုပ်သည့် သကြားအား အရည်အသွေးကောင်းမွန်အောင်ထုတ်လုပ်ပြီး သင့်လျော်၍ မပေါများသည့်ဈေးနှုန်းဖြင့် ရောင်းချမည် ဖြစ်သည့်အတွက် ဈေးကွက်မကျယ်ပြန့်စေဘဲ သကြားစားသုံးမှုအား ထိန်းချုပ်ဖြန့်ဖြူးနိုင်မည့်အပြင်၊ ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန၊ ပြည်သူ့ကျန်းမာရေးဦးစီးဌာနနှင့် လက်တွဲချိတ်ဆက်၍ လူထုကျန်းမာရေးအတွက် အချိုလျှော့စားရန် ကမ်ပိန်းများပြုလုပ်ခြင်း၊ နိုင်ငံ၏ စတုတ္ထမဏ္ဍိုင်ဖြစ်သော မီဒီယာအသီးသီးမှ အသိပညာပေးအစီအစဉ်များ၊ ဇာတ်လမ်းတိုများ ရိုက်ကူးထုတ်လွှင့်ခြင်းများ ပြုလုပ်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

**နိဂုံးချုပ်**

၁၁။ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်အနေဖြင့် အမှတ်(၃)သကြားစက်ရုံ (အင်းဝိုင်း)၏ ပတ်ဝန်းကျင် ကျေးရွာများရှိ ဒေသခံပြည်သူများ၏ ပညာရေးကဏ္ဍ၊ ကျန်းမာရေးကဏ္ဍ၊ လူမှုရေးကဏ္ဍ၊ လမ်းတံတားကဏ္ဍ စသည့်လိုအပ်ချက်များအား ငွေရည်ပုလဲကုမ္ပဏီအုပ်စု၏ ဆောင်ရွက်ခဲ့သော အစဉ်အလာကောင်းများနှင့်အညီ စဉ်ဆက်မပြတ် ဆက်လက်ပံ့ပိုး ကူညီဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း လေးစားစွာဖြင့် တင်ပြအပ်ပါသည်။

ဒါရိုက်တာအဖွဲ့
ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်



# ငွေရည်ပုလဲကုမ္ပဏီအုပ်စု

# ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်

## အမှတ် (၃) သကြားစက်ရုံ စီမံကိန်း

## ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းပြုလုပ်မည့်အစီအမံများနှင့်

## ကုမ္ပဏီ၏ သကြားစက်ရုံများတွင်

## သဘာဝပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးအတွက်

## ဆောင်ရွက်ချက် အစီရင်ခံစာ

၂၀၁၈ ခုနှစ်၊ ဩဂုတ်လ

အမှတ် (၃) သကြားစက်ရုံ
ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုဆန်းစစ်ခြင်း (EIA- Enviromental Impact Assessment)
လူမှုဘဝဆိုင်ရာ ထိခိုက်မှုဆန်းစစ်ခြင်း (SIA- Social Impact Assessment)
ကျန်းမာရေးဆိုင်ရာ ထိခိုက်မှုဆန်းစစ်ခြင်း (HIA- Health Impact Assessment)
ပြုလုပ်မည့် အစီအမံများ တင်ပြခြင်း

၁။ ငွေရည်ပုလဲကုမ္ပဏီအုပ်စု၊ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်လက်အောက်ရှိ အမှတ် (၃) သကြားစက်ရုံ အနေဖြင့် သဘာဝပတ်ဝန်းကျင်ဆိုင်ရာ အကျိုးသက်ရောက်မှုဆန်းစစ်ခြင်း (EIA- Enviromental Impact Assessment) နှင့်ပတ်သက်၍အောက်ပါအတိုင်း ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြအစီရင်ခံအပ်ပါသည်-

(က) အမှတ်(၃) သကြားစက်ရုံ၏ ကုန်ထုတ်လုပ်မှုအပိုင်းတွင် ကာဗွန်ဒိုင်အောက်ဆိုဒ်ဓါတ်ငွေ့ ထုတ်လုပ်မှုနည်းသောနည်းကို အသုံးပြုထားပြီး ထွက်ရှိလာသော$CO_2$ ဓါတ်ငွေ့ကိုလည်း ပြန်လည်သန့်စင်ခြင်းစနစ် $CO_2$ Amaliger and control system ကို အသုံးပြုသွားမည် ဖြစ်ပါသည်။

(ခ) သကြားစက်ရုံလည်ပတ်ရန် တစ်ရက်လျှင် ရေဂါလံ(၁)သန်းခန့်၊ (၁)နာရီလျှင်(၂၀၀)တန်/နာရီနှုန်း အသုံးပြုရပါမည်။ ရေသုံးစွဲရာတွင် စက်ရုံမှအသုံးပြုပြီးသော ရေကို Recycle (Spray Pond) အအေးခံ၍ ပြန်လည်အသုံးပြုပါမည်။ အဆိုပါရေများမှာ-

(၁) ကြံရည်ကြိုအိုး၊သကြားချက်ဒယ်မှ Vacuum Making တွင်အသုံးပြုသောCondenser နှင့် Injector Water များ။

(၂) Turbine, Bearing များ၊Air Compressor, Sulphurburnerတို့မှCooling Water များ

(၃) Massecuite Cyrstallizer အအေးခံအိုးမှ Cooling Water Volume ကို လျှော့နည်းစေမည် ဖြစ်ပါသည်။

(ဂ) စက်ရုံတွင်းရှိ Process Water ဟုခေါ်ဆိုသော ဘွိုင်လာမှထုတ်ပေးလိုက်သော ရေနွေးငွေ့ (Super Heat Steam)အား ဓါတ်အားထုတ်စက်(Steam Turbine Generator) ကြံရည်အပူပေးကိရိယာ(Juice Heater) ကြံရည်ကြိုကိရိယာ (Evaporator) သကြားချက်ဒယ် (Pan)တို့တွင် အသုံးပြုရရှိသော Pure Condensate ကို Boiler Feed Water အဖြစ် ပြန်လည်အသုံးပြုခြင်း၊ Impure Condensate ကို သကြားချက် Process တွင် ရေနွေးလိုအပ်သော နေရာ များတွင်

ပြန်လည်အသုံးပြုခြင်းဖြင့်စက်ရုံသုံးရေ(ရေစိမ်း)ကိုပိုမိုသုံးစွဲရန်မလိုသဖြင့်စက်ရုံ၏ စွန့်ပစ်ရေ (Waste Water Volume)ကိုလျော့နည်းစေပါမည်။

(ဃ) စက်ရုံ၏ စွန့်ပစ်ရေမှာကြံတစ်တန် ကြိတ်ဝါးလျှင် 0.16$m^3$မှ0.76$m^3$ထိရောက်ရှိပါသည်။ အဆိုပါ စွန့်ပစ်ရေတွင် ပတ်ဝန်းကျင်အား ထိခိုက်စေနိုင်သော B.O.D (Bio Chemical Oxygen Demond) 1000mg/lit ထက်လျော့နည်းအောင် ပြုလုပ်ပြီးမှသာ စွန့်ပစ်ရေတွင် B.O.D ကိုလျော့ချရန် Anaerobic Biological Process (Oxidition Ponds)များဖြင့် လျော့ချ၍ဆောင်ရွက်ရမည်ဖြစ်ပါသည်။ အဆိုပါနည်းမှWaste Water တွင်ပါလာသော Organic Compound များကိုအနည်အဖြစ်ကျစေပြီး စွန့်ပစ်ရေ၏ B.O.D 100 အောက်ကျစေပြီးရရှိသောစွန့်ပစ်ရေကိုကြံစိုက်ခင်းများတွင်ရေသွင်းစိုက်ပျိုးရာတွင်ပြန်လည်အသုံးပြုနိုင်ပါသည်။

(င) သကြားစက် လောင်စာများ၏ ဘွိုင်လာမှုကြံဖတ်ကိုအသုံးပြုပြီး ဘွိုင်လာခေါင်းတိုင်မှ စွန့်ပစ်လေတွင်လည်း Air Pollution ဖြစ်စေသော Un-burn bagasse များ၊ ကာဗွန်အမှုန့်များ၊ အောက်ဆီဂျင်၊ နိုက်ထရိုဂျင်၊ကာဗွန်မိုနောက်ဆိုဒ်၊ဆာလဖာများ ပါဝင်နိုင်၍ ဘွိုင်လာ၏ Combustion Chamber, Design နှင့်Operation များ အသေအချာစီစစ်ခြင်းဖြင့် Inburn bagasse များ ကာဗွန်မိုနောက်ဆိုဒ်များကို လျော့နည်းစေရန် ဆောင်ရက်ပါမည်။ Fly Ash များနှင့် Air Pollutionကိုဖြစ်စေသော အမှုန်အမွှားများကို Wet Collectors (မီးခိုးခေါင်းတိုင်မှမထွက်မီရေဖြန်းချနည်းများ) Multicyclonesများဖြင့် တပ်ဆင်ပြီး Air Pollution မဖြစ်အောင်ထိန်းချုပ်သွားမည်ဖြစ်ပါသည်။

(စ) ဂေဟစနစ်မပျက်စီးစေရန် စက်ရုံဝန်းအတွင်း ပန်းအလှများ အရိပ်ရသစ်ပင်များ အထူးသဖြင့်ကျွန်း၊ ရေမနေ၊ သရက်၊ ပိန္နဲပင်နှင့် စက်ရုံအဝင်လမ်းမကြီး၏ ဝဲ/ယာတွင် ကျွန်း၊ ယမနေ၊ ပိတောက်၊ ယူကလစ်အပင်များအား အကွက်ချစိုက်ပျိုးသွားရန် စီစဉ်ဆောင်ရွက်ပါမည်။ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်အနေဖြင့် အမှတ်(၁) သကြားစက်ရုံနှင့် အမှတ် (၂)သကြားစက်ရုံများတွင် သန့်ရှင်းသော ပတ်ဝန်းကျင်ဖြစ်အောင် ဥယျာဉ်၊ စက်ရုံတစ်ခုသဖွယ် တည်ဆောက်ကာ သဘာဝပတ်ဝန်းကျင်ကောင်းတစ်ခုဖြစ်ထွန်းစေရန် စီစဉ်တည်ဆောက်လျက်ရှိပြီး၊ အမှတ်(၃)သကြားစက်ရုံကိုလည်း အလားတူ သဘာဝပတ်ဝန်းကျင်စိမ်းလန်းစိုပြေမှုကိုထိန်းသိမ်းစောင့်ရှောက်သည့် ဥယျာဉ်စက်ရုံတစ်ခုအဖြစ် အကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(ဆ) စက်ရုံ၏ အရှေ့ဖက်ခြမ်း မြင်းဖြူတောင်တန်း ဖောင်းအော်ချောင်း၊ ရေတံခွန်ချောင်း စသည့် သဘာဝ ရှုခင်းအလှအပများ ဝန်းရံလျက်ရှိသဖြင့် ထိုသဘာဝအလှအပများ မပျက်စီးစေအောင် ထိန်းသိမ်းစောင့်ရှောက်ကာ ဒေသအကျိုးပြုမည့် သဘာဝ အပန်းဖြေစခန်းတစ်ခုအဖြစ်ရှိစေမည် ဖြစ်ပါသည်။

၂။ အမှတ်(၃)သကြားစက်ရုံမှ ကုန်ထုတ်လုပ်မှုဆောင်ရွက်စဉ်ကာလအတွင်း စက်ရုံအနေဖြင့် ဘွိုင်လာနှင့် ကြံရည်ကျိုဌာနစိတ်မှ စွန့်ပစ်ရေ ထွက်ရှိပါသည်။ ယင်းစွန့်ပစ်ရေများကိုစက်ရုံစတင်တည်ထောင်စဉ်ကပင်

ပတ်ဝန်းကျင်ကို ညစ်ညမ်းမှုမဖြစ်စေရေးအတွက် စွန့်ပစ်ရေအား စနစ်တကျ အောက်ပါအတိုင်း စီမံဆောင်ရွက်မည် ဖြစ်ပါသည်။

(က) ဤစက်ရုံတွင်အသုံးပြုမည့်ဘွိုင်လာကို ခေတ်မှီနည်းစနစ်ဖြင့် အပြည့်အဝ လောင်ကျွမ်းစေခြင်း (Complete Combustion) လုံလောက်သော အမှုန်ထိန်းချုပ်မှု (Dust Control)နှင့် လေထုညစ်ညမ်းစေမည့် ဓါတ်ငွေ့ထိန်းချုပ်မှုစနစ် ($CO_2$ Control)စသည့် ကိရိယာများ ပါဝင်သော ဘွိုင်လာကို တည်ဆောက်အသုံးပြုပါမည်။ ထို့အပြင်တည်ဆောက်မည့် ခေါင်းတိုင်ကိုလည်း အမြင့်(60m) တည်ဆောက်မည်ဖြစ်ပါသည်။

(ခ) လူထုကျန်းမာရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် လေထုအရည်အသွေးတို့ကို မထိခိုက်စေရန်အတွက် ကြံဖတ်လောင်စာများအား မီးတိုက်ခန်း (Combustion Chamber) အတွင်း၌(95%)လောင်ကျွမ်းစေပြီးနောက်လောင်ကျွမ်းမှုမရှိသော အမှုန်အမွှားနှင့် ပြာနုများ၊ ချော်ပြာများကိုမီးတိုက်ခန်း၌ပင်ဆွဲထုတ်ဖယ်ရှားသွားမည်ဖြစ်ပါသည်။ ကျန်မီးခိုးနှင့် အလွန်သေးငယ်သော အမှုန်အမွှားအညစ်အကြေးများကို လေစုပ်ပန်ကာဖြင့်စုပ်ထုတ်၍ ဘင်ကျူရီပိုက် (Venturi Pipe)ဖြင့်ဖိအားမြှင့်စေပြီး အစစ်ခံကိရိယာ(Filter)အိုးအပေါ်မှ ဒေါင်လိုက် ဝင်ရောက်စေသည်။ ဝင်လာသော မီးခိုးများအား နော်ဇယ်တပ်ထားသော ညာရစ်ရေပန်းဖြင့်အရှိန်ပြင်းစွာဖြန်းချပါသည်။ ထိုသို့ဖြန်းခြင်းအားဖြင့်မီးခိုးတွင် ပါဝင်သော အမှုန်အမွှားများသည်လည်းကောင်း၊ ($NO_2$, $CO_2$, CO)စသည့် ဓါတ်ငွေ့များ ရေဖြင့် ဓါတ်ပြု၍ လည်းကောင်း၊ ရေတွင် ပျော်ဝင်၍လည်းကောင်း၊ အနယ်အနှစ်အဖြစ် စုပုံကျဆင်းစေခြင်းဖြင့် စွန့်ထုတ်ပါသည်။

(ဂ) ဘွိုင်လာမှအအေးခံရန်အတွက် အသုံးပြုသောရေများကိုလည်း ရေသန့်စင်မှုစနစ်ကို အသုံးပြု၍ ရေကိုလှည့်လည်အသုံးပြုခြင်း (Recycle) စနစ်ဖြင့် ပြန်လည်အသုံးပြုမည်ဖြစ်ပါသည်။ ယင်းစနစ်ဖြင့်သန့်စင်ပြီးသောရေသည် သောက်သုံးရေအဖြစ်ဖြင့် သုံးစွဲနိုင်ပြီး ရေသုံးစွဲမှုပမာဏကိုလည်း လျော့နည်းစေပါသည်။

(ဃ) ထို့ပြင် ဓါတ်ငွေ့များတွင် ပါဝင်သော အမှုန်အမွှားများကို အနည်စစ်ကိရိယာ (High Voltage Electrostatic Precipitator, H.V.E.P)ဖြင့် ထပ်မံဖမ်းယူခြင်းကြောင့် ထွက်လာသော မီးခိုးသည် ($NO_2$, $CO_2$, CO) စသည့် ဓါတ်ငွေ့များ ပါဝင်မှု အလွန်လျော့ကျ နည်းပါးစေမည့်အပြင် (98%)သန့်စင်ပြီး မီးခိုးဖြူအဖြစ် ခေါင်းတိုင်မှတဆင့် ပတ်ဝန်းကျင်လေထုသို့ စွန့်ထုတ်ပါမည်။ ခေါင်းတိုင်မှစွန့်ထုတ်သည့် မီးခိုးတွင် ပါဝင်သောအခိုးအငွေ့ အညစ်အကြေးနှင့် အမှုန်အမွှားပါဝင်မှုသည် အပြည်ပြည်ဆိုင်ရာ သတ်မှတ်ထားသည့် စံချိန်စံညွှန်းများနှင့် အညီ ဆောင်ရွက်မည်ဖြစ်ပါသည်။

၃။ အမှတ်(၃)သကြားစက်ရုံမှ ကုန်ထုတ်လုပ်မှုဆောင်ရွက်စဉ်ကာလအတွင်း စက်ရုံအနေဖြင့် ကျိုချက်ရုံမှ ထွက်ရှိသည့် စွန့်ပစ်ရေများအား စက်ရုံစတင်တည်ထောင်စဉ်ကပင် ပတ်ဝန်းကျင်ကို ညစ်ညမ်းမှုမဖြစ်စေရေး အတွက် စနစ်တကျအောက်ပါအတိုင်း စီမံဆောင်ရွက်ထားရှိပါသည်။

(က) အမှတ်(၃)သကြားစက်ရုံဝန်းကျင်တွင် ကျွန်းပင်၊ ရေမနေပင်၊ ရေသင်းဝံပင်နှင့်စားပင်သီးပင်၊ အရိပ်ရအပင်များ စိုက်ပျိုးထားရှိမည်ဖြစ်ပါသည်။ ပန်းမာလာနှင့်မြက်ခင်းများ စနစ်တကျ စိုက်ပျိုးထားရှိမည့်အပြင်သန့်ရှင်းသော ပတ်ဝန်းကျင်များဖြစ်အောင် ဥယျာဉ်စက်ရုံ တစ်ခု သဖွယ် ဖန်တီးတည်ဆောက်ထားသော သဘာဝပတ်ဝန်းကျင်ကို ထိန်းသိမ်းစောင့်ရှောက်သွား မည် ဖြစ်ပါသည်။

(ခ) ထို့ပြင်စက်ရုံပိုင်ကြံစိုက်ခင်းများ၏ စည်းရိုးများတွင်ကျွန်းပင်၊ ရေမနေပင်၊ ရေသင်းဝင်ပင်နှင့် ဝါးပင်များကို စိုက်ပျိုးကာလေထုအတွင်း $CO_2$ပါဝင်မှုလျော့နည်းစေရန် ရည်ရွယ်၍ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်ရေးကို စနစ်တကျဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၄။ အမှတ် (၃)သကြားစက်ရုံအတွက် လူမှုဘဝဆိုင်ရာ အကျိုးသက်ရောက်မှုဆန်းစစ်ခြင်း (SIA- Social Impact Assessment) နှင့်ပတ်သက်၍အောက်ပါအတိုင်း ဆောင်ရွက်လျက်ရှိပါကြောင်း တင်ပြအစီရင်ခံအပ် ပါသည်-

(က) စက်ရုံစီမံကိန်း နယ်မြေဒေသအနီး လယ်ယာလုပ်ကိုင်နေကြသော ဒေသခံပြည်သူများနှင့် မှီတင်းနေထိုင်ကြသူများအားကြံစိုက်ပျိုးနည်းပညာများဖြန့်ဖြူး၍လည်းကောင်း၊ သွင်းအားစု များပံ့ပိုး၍လည်းကောင်း၊ ကြံကေများတိုးချဲ့ရာတွင်လိုအပ်မည့်စက်ယန္တရားများ ကူညီခြင်းဖြင့် လည်းကောင်း၊ တောင်သူမှီခိုမိသားစုများအား စက်ရုံလုပ်ငန်းခွင်များတွင်လုပ်ကိုင်စေခြင်းဖြင့် လည်းကောင်း၊ အလုပ်အကိုင်အခွင့်အလမ်းများရရှိ၍ ဝင်ငွေတိုးပွားစေရန် ဆောင်ရွက် သွားမည်ဖြစ်ပါသည်။ စက်ရုံစီမံကိန်း ဆောင်ရွက်မည့်ဒေသသည်နောင်ချိုနှင့်လည်းကောင်း၊ ပြင်ဦးလွင်နှင့်လည်းကောင်း အလှမ်းဝေးသည့် နေရာဖြစ်ပါသည်။ ဒေသတွင်းရှိရွာများသည် လမ်းပန်းဆက်သွယ်ရေး ခက်ခဲသဖြင့်လည်းကောင်း၊ ကြံနှင့်ပြောင်းကိုသာအဓိကထား စိုက်ပျိုးသော်လည်း မြို့များနှင့် ဝေးကွာသဖြင့် ဖွံ့ဖြိုးမှုနည်းပါးလျက်ရှိပါသည်။ ဖွံ့ဖြိုးမှု နည်းပါးသဖြင့်လူမှုရေး၊ ကျန်းမာရေး၊ ပညာရေးများ နိမ့်ကျလျက်ရှိသည်ကိုတွေ့ရပါသည်။ ကုန်ထုတ်လမ်းနှင့် ဆက်သွယ်ရေးလမ်းများအား လိုအပ်သလို ဖောက်လုပ်ဆောင်ရွက် သွားမည် ဖြစ်ပါသည်။

(ခ) စက်ရုံအား ဤဒေသတွင် ရွေးချယ်တည်ဆောက်သဖြင့် လမ်းပန်းဆက်သွယ်ရေး ကောင်းမွန်လာခြင်း၊ ဒေသထွက်ကုန်များ လွယ်ကူလျှင်မြန်စွာပို့ဆောင်နိုင်ခြင်း၊ ပညာရေး၊ ကျန်းမာရေးကိစ္စများတိုးတက်လာခြင်းတို့အပြင် လူမှုပတ်ဝန်းကျင်ဖွံ့ဖြိုးတိုးတက်လာမှုများ မလွဲမသွေရရှိလာမည်ဖြစ်ပါသည်။ လမ်းပန်းဆက်သွယ်ရေးခက်ခဲသဖြင့်လူမှုရေး၊ ကျန်းမာရေး၊ ပညာရေးများတွင်များစွာနိမ့်ပါးလျက်ရှိကြသည့် ဒေသခံများအား လမ်းပန်းဆက်သွယ်မှု ပံ့ပိုး ကူညီဆောင်ရွက်ပေးခြင်း၊ ကျန်းမာရေးဆိုင်ရာများ တတ်နိုင်သမျှထောက်ပံ့ခြင်း၊ ပညာရေး ဆိုင်ရာအထောက်အပံ့များ ကူညီပေးခြင်းတို့ကို ဆောင်ရွက်ပေးသွားမည် ဖြစ်ပါသည်။ ဒေသခံများ၏ ရင်သွေးငယ်များ ပညာအဆင့်အတန်း မြင့်မားလာစေရန်အခွင့်အရေးများ ရရှိလာပြီး အလုပ်အကိုင် အခွင့်အလမ်းများ၊ စီးပွားရေး အခွင့်အလမ်းများကို ပွင့်လင်းအောင် ဆောင်ရွက်ပေးသွားမည်ဖြစ်ပါသည်။

(ဂ) ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်သည်ဒေသခံပြည်သူများ၏ လူမှုဘဝ၊ ပတ်ဝန်းကျင်များ တိုးတက်လာရေးကိုအတတ်နိုင်ဆုံး ဆောင်ရွက်ပေးလျှက်ရှိပါသည်။ ကုမ္ပဏီမှလက်ရှိစက်ရုံများ တည်ရှိရာနေရာများတွင် စာသင်ကျောင်းဆောင်များ ဆောက်လုပ်ပေးခြင်း၊ စာသင်ခုံနှင့် စာရေးကိရိယာ ပညာရေးအထောက်အပံ့ပစ္စည်းများ ထောက်ပံ့ခြင်း၊ သောက်သုံးရေရရှိရေး လုပ်ငန်းများ၊ ရေလှောင်ကန်၊ ရေကန်များ၊ ဘုန်းတော်ကြီးကျောင်းများ၊ လမ်းတံတားများ၊ ကျန်းမာရေး ဆေးပေးခန်းများ၊ အစရှိသည့်ဒေသဖွံ့ဖြိုးရေးပံ့ပိုးမှုလုပ်ငန်းများအတွက် မြန်မာကျပ်ငွေသိန်းပေါင်း (၂၆၆၂၉)ကျော် သုံးစွဲပံ့ပိုးခဲ့ပြီး ဖြစ်ပါသည်။ ဆက်လက်၍ အမှတ်(၃)သကြားစက်အနီး ဒေသများတွင် ဖွံ့ဖြိုးရေးအတွက် ပံ့ပိုးမှုလုပ်ငန်းများကို ပါဝင် ဆောင်ရွက်သွားမည့်အပြင် ဒေသခံတိုင်းရင်းသားများ၏ လူနေမှုဘဝတိုးတက်ရန် ကုမ္ပဏီမှ အတတ်နိုင်ဆုံး ကူညီပံ့ပိုးသွားမည်ဖြစ်ပါသည်။

၅။ အမှတ် (၃) သကြားစက်ရုံ တည်ရှိရာ ဒေသတွင် ကျန်းမာရေးယိုယွင်းမှုလျော့နည်းစေရေးအတွက် အကျိုးသက်ရောက်မှုလေ့လာဆန်းစစ်ခြင်း (HIA-Health Impact Assessment)နှင့်ပတ်သက်၍ အောက်ပါ အတိုင်း ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြအစီရင်ခံအပ်ပါသည် -

(က) အမှတ် (၃) သကြားစက်ရုံသည် အဓိကကုန်ကြမ်းအဖြစ် ကြံကိုသာအသုံးပြုမည်ဖြစ်ပြီး သွယ်ဝိုက်ကုန်ကြမ်းအဖြစ်ထုံး၊ ကန့်အနည်းငယ်ကိုသာ အသုံးပြုမည်ဖြစ်ပါသည်။ ရေအသုံးပြုမှုရှိသော်လည်း စက်ရုံ၏နည်းစဉ်သည် ရေအသုံးပြုမှု နည်းမည်ဖြစ်ပါသည်။ Condensateခေါ် ပေါင်းခံချွေးကိုအဓိကပြန်လည်အသုံးချမည်ဖြစ်ပါသည်။ ရေဆိုး စွန့်ပစ် ရာတွင်လည်း Waste Water Treatment Plant တပ်ဆင်ထားမှုနှင့်ပတ်သက်၍ စက်ရုံသုံးရေကို ခေတ်မီအအေးခံစနစ်၊ သန့်စင်စနစ်များ အသုံးပြု၍ရေသံသရာလည်နည်း Water Circulation ဖြင့် စီမံသုံးစွဲမည်ဖြစ်ပါသည်။

(ခ) ဒေသခံပြည်သူများ၏ကျန်းမာရေးမထိခိုက်စေရန်အတွက်လည်းကောင်း၊ လေထုမညစ်ညမ်း စေရန်အတွက်လည်းကောင်း၊ ဘွိုင်လာမှထွက်ရှိမည့် ချော်ပြာများကိုမီးတိုက်ခန်းမှ တိုက်ရိုက် ဆွဲထုတ်၍ဖယ်ရှားခြင်း၊ မီးခိုးတွင်ပါဝင်သွားနိုင်သည့် အမှုန်အမွှားနှင့်$CO_2$,CO,NO,$SO_2$ ဓာတ်ငွေ့များကိုနော်ဇယ်ရေဖြန်းစနစ်သုံးသည့် Dust Collector စနစ်ဖြင့်ဖယ်ရှားခြင်း၊ ဓာတ်ပြုကွဲစေခြင်းဖြင့်လည်းကောင်း၊ မလိုလားအပ်သော ဓာတ်ငွေ့အမှုန်အမွှား ထွက်ရှိမှု လျော့နည်းစေသည့် Complete Combustionဖြစ်စေရန်နှင့် $CO_2$ Amaliger and Control Systemများတပ်ဆင်ခြင်းဖြင့်လည်းကောင်း၊ သန့်စင်၍ထွက်ရှိလာသောမီးခိုးဖြူများအား ခေါင်းတိုင်အမြင့်စံသတ်မှတ်ချက်အတိုင်း တည်ဆောက်ခြင်းဖြင့်လည်းကောင်း၊ မီးခိုးတွင် ပါဝင်သော အညစ်အကြေး အမှုန်အမွှားများပါဝင်မှုကို အပြည်ပြည်ဆိုင်ရာသတ်မှတ် စံချိန်စံညွှန်းနှင့် အညီဆောင်ရွက်သွားမည်ဖြစ်ပါသည်။ စက်ရုံပတ်ဝန်းကျင်ရှိ ဒေသခံရွာ များသည် စက်ရုံနှင့် (၁)မိုင်မှ (၇)မိုင်ခန့် အကွာအဝေးတွင် တည်ရှိပြီး ဒေသခံများ၏ ကျန်းမာရေးဆိုင်ရာ လုပ်ငန်းကိစ္စများတွင် စက်ရုံတာဝန်ရှိသူများနှင့် ကုမ္ပဏီမှအားတက် သရော ပါဝင်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(ဂ) အမှတ်(၃)သကြားစက်ရုံအနေဖြင့် ဝန်ထမ်းများ၏ ကျန်းမာရေးစောင့်ရှောက်မှုအဖြစ် စက်ရုံတွင် ဆေးခန်းများထားရှိပြီး ဝန်ထမ်းများအား အခမဲ့ဆေးကုသခွင့်ပြုထားပါသည်။

ဝန်ထမ်းများနာမကျန်းဖြစ်၍ ဆေးရုံတက်ရောက်ကုသမှုခံယူရပါက ဆေးရုံတက်စရိတ်နှင့် ဆေးဘိုးကုန်ကျငွေတစ်ဝက်ကို စက်ရုံမှကျခံထုတ်ပေးလျက်ရှိပါသည်။ ၎င်းအပြင် ဝန်ထမ်း မိသားစုမှ သားသမီးငယ်များအား ကျန်းမာရေးဌာနနှင့်ဆက်သွယ်၍ ကာကွယ်ဆေးများ ထိုးပေးခြင်း၊ အမျိုးသမီးဝန်ထမ်းများ မီးဖွားခွင့်တောင်းခံလာပါက မီးဖွားခွင့်အပြင် မီးဖွားစရိတ် ထောက်ပံ့ငွေ (၂)သိန်းကျပ်ကိုလည်း ထောက်ပံ့ပေးလျက်ရှိပါသည်။ စက်ရုံနေ့ဆိုင်း/ညဆိုင်းဆင်းဝန်ထမ်းများ အဟာရဖြည့်တင်းရေးအတွက် ကြက်ဥ၊ ကော်ဖီမစ်၊ ခေါက်ဆွဲခြောက်ထုပ်များ၊ အအေးဘူးများကိုအလှည့်ကျစနစ်ဖြင့် နေ့စဉ်အဟာရ ကျွေးမွေးရေး အစီအစဉ်ရေးဆွဲ၍ ကျွေးမွေးလျက်ရှိပါသည်။ ၎င်းအပြင် အပူရှိန်ရှိသော စက်ရုံနေရာများတွင် ဝန်ထမ်းအား အပူခံ၊ ရင်ခံပြားများ၊ Helmet များတပ်ဆင်ပေးခြင်းဖြင့် ကျန်းမာရေးထိခိုက်မှုအန္တရာယ်မှ ကာကွယ်ပေးမည်ဖြစ်ပါသည်။

(ဃ) စက်ရုံအနီးရှိ ဒေသခံရွာများမှ ပြည်သူများ၏ ကျန်းမာရေးအတွက် စက်ရုံဆေးခန်းတွင် ကြည့်ရှုစောင့်ရှောက်ခမယူဘဲ ဆေးဘိုးကျခံစနစ်ဖြင့် ကုသပေးသွားမည်ဖြစ်ပါသည်။ ၎င်းအပြင် ဒေသခံရွာကြီးများတွင် ဆေးခန်းများ၊ သားဖွားခန်းများ ဆောက်လုပ်လှူဒါန်း လျက်ရှိပါသည်။

၆။ အဆိုပါဆောင်ရွက်ချက်များအပြင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးအသိအမှတ်ပြု 3th Party ပညာရှင်အဖွဲ့အစည်းများနှင့်ချိတ်ဆက်၍ သဘာဝပတ်ဝန်းကျင်ဆိုင်ရာ အကျိုးသက်ရောက်မှုဆန်းစစ်ခြင်း (EIA-Enviromental Impact Assessment) ၊ လူမှုဘဝဆိုင်ရာ အကျိုးသက်ရောက်မှုဆန်းစစ်ခြင်း (SIA-Social Impact Assessment)လုပ်ငန်း၊ ကျန်းမာရေးဆိုင်ရာ အကျိုးသက်ရောက်မှုဆန်းစစ်ခြင်း (HIA-Health Impact Assessment)လုပ်ငန်းများအား ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ (၂၀၁၂)အရလည်းကောင်း၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၏ သတ်မှတ်ချက်များအရလည်းကောင်း၊ နိုင်ငံတကာစံနှုန်းများအရလည်းကောင်း စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြအစီရင်ခံအပ်ပါသည်။

ဒါရိုက်တာအဖွဲ့
ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်

ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်

သဘာဝပတ်ဝန်းကျင်စီမံးလန်းစိုပြည်ရေးအတွက်

စက်ရုံမြေဧရိယာနေရာများတွင် ပြုစုပျိုးထောင်စိုက်ပျိုးထားသည့်

သစ်ပင်၊ ပျိုးပင်များ၏ မှတ်တမ်းဓာတ်ပုံများ





ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်
သဘာဝပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးအတွက် စက်ရုံမြေဧရိယာနေရာများတွင်
ပြုစုပျိုးထောင်စိုက်ပျိုးထားသည့် သစ်ပင်များ၏ မှတ်တမ်းဓာတ်ပုံများ





ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်
သဘာဝပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးအတွက် စက်ရုံမြေဧရိယာနေရာများတွင်
ပြုစုပျိုးထောင်စိုက်ပျိုးထားသည့် သစ်ပင်များ၏ မှတ်တမ်းဓာတ်ပုံများ





ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်
သဘာဝပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးအတွက် စက်ရုံမြေဧရိယာနေရာများတွင်
ပြုစုပျိုးထောင်စိုက်ပျိုးထားသည့် သစ်ပင်များ၏ မှတ်တမ်းဓာတ်ပုံများ





ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်
သဘာဝပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးအတွက် စက်ရုံမြေဧရိယာနေရာများတွင်
ပြုစုပျိုးထောင်စိုက်ပျိုးထားသည့် သစ်ပင်များ၏ မှတ်တမ်းဓာတ်ပုံများ





ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်
သဘာဝပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးအတွက် စက်ရုံမြေဧရိယာနေရာများတွင်
ပြုစုပျိုးထောင်စိုက်ပျိုးထားသည့် သစ်ပင်များ၏ မှတ်တမ်းဓာတ်ပုံများ





ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်
သဘာဝပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးအတွက် စက်ရုံမြေဧရိယာနေရာများတွင်
ပြုစုပျိုးထောင်စိုက်ပျိုးထားသည့် သစ်ပင်များ၏ မှတ်တမ်းဓာတ်ပုံများ





ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်
သဘာဝပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးအတွက် စက်ရုံမြေဧရိယာနေရာများတွင်
ပြုစုပျိုးထောင်စိုက်ပျိုးထားသည့် သစ်ပင်များ၏ မှတ်တမ်းဓာတ်ပုံများ





ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်
သဘာဝပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးအတွက် စက်ရုံမြေရိယာနေရာများတွင်
ပြုစုပျိုးထောင်စိုက်ပျိုးထားသည့် သစ်ပင်များ၏ မှတ်တမ်းဓာတ်ပုံများ





ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်
သဘာဝပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးအတွက် စက်ရုံမြေဧရိယာနေရာများတွင်
ပြုစုပျိုးထောင်စိုက်ပျိုးထားသည့် သစ်ပင်များ၏ မှတ်တမ်းဓာတ်ပုံများ

# ငွေရည်ပုလဲသကြား ကုမ္ပဏီလီမိတက်
# မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်

ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်၊ တစ်ရက်လျှင်ကြံတန်ချိန်(၁၂၀၀၀)ကြိတ်ဝါးမည့် သကြားစက်ရုံအသစ် စီမံကိန်းသည် နောင်ချိုမြို့နယ်၊ ကုန်းကြီးကျေးရွာအုပ်စု၊ အင်းဝိုင်းကျေးရွာအနီးတွင် တည်ရှိပါသည်။ စက်ရုံတည်ဆောက်မည့် နေရာ၏ အနောက်ဘက်တွင် ရေတံခွန်ချောင်းနှင့် အရှေ့ဖက်တွင် ဖောင်းအော်ချောင်းတို့ တည်ရှိပြီး နွေ၊ မိုး၊ ဆောင်း အမြဲရေရရှိပါသည်။ ယင်းချောင်းဘေးများ၏ စက်ရုံဧရိယာအနီးတွင် တောအုပ်ငယ်နှင့် ဝါးတောများ၊ ချုံပုတ်တောများ ပါရှိသဖြင့် နွေရာသီတွင် တောမီးအန္တရာယ်ရှိနိုင်ပါသည်။ ဝန်ထမ်းအိမ်ယာများ မှလည်းကောင်း၊ စက်ရုံလျှပ်စစ်မှလည်းကောင်း၊ ဘွိုင်လာ ကြံဖတ်လောင်စာနှင့် စက်သုံးဆီများမှလည်းကောင်း မီးဘေးအန္တရာယ် ရှိနိုင်ပါသဖြင့်စက်ရုံပစ္စည်းများ မဆုံးရှုံးစေရေးနှင့် ဝန်ထမ်းများ မီးဘေးအန္တရာယ် ကင်းရှင်းစေရေး အတွက် မီးဘေးလုံခြုံရေးကို အောက်ပါရည်ရွယ်ချက်(၂)ရပ်ဖြင့် စီမံချက်ချ၍အထူးဂရုပြု ဆောင်ရွက်သွားပါမည်။

(က) တန်(၁၂၀၀၀)သကြားစက်ရုံ စီမံကိန်း၌ မီးဘေးအန္တရာယ်မရှိစေရန် ဝိုင်းဝန်းကြိုတင် ကာကွယ် သွားရန်၊

(ခ) စက်ရုံပိုင်ပစ္စည်းများ၊ အဆောက်အဦးများ၊ ဝန်ထမ်းအိမ်ယာများအား မီးဘေးအန္တရာယ်မှ ကာကွယ်စောင့်ရှောက်ရန်၊ အကြမ်းဖျဉ်းအားဖြင့် စီမံချက်အား (၂)ပိုင်းခွဲ၍ ဆောင်ရွက်သွားပါမည်။

(ဂ) မီးဘေးကြိုတင် ကာကွယ်ခြင်း

(ဃ) မီးလောင်မှုဖြစ်ပေါ်ပါက ဝိုင်းဝန်းငြိမ်းသတ်ခြင်းတို့ကို စီမံဆောင်ရွက်သွားပါမည်။

၁။ မီးဘေးကြိုတင်ကာကွယ်ခြင်း။ အောက်ပါအတိုင်း စနစ်တကျ အဖွဲ့များ ဖွဲ့စည်းဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(က) တောမီးတားဆီးကာကွယ်ရေးအဖွဲ့

(ခ) ပေါ့ဆမီးကြိုတင်ကာကွယ်ရေးအဖွဲ့

(ဂ) လျှပ်စစ်ဝါယာရှော့မှတဆင့် မီးလောင်မှု မဖြစ်ပေါ်စေရေး တားဆီးကာကွယ်ရေးအဖွဲ့

(ဃ) စက်ရုံအတွင်း မီးဘေးကြိုတင်ကာကွယ်ရေးအဖွဲ့

(င) မီးသတ်အဖွဲ့ ဖွဲ့စည်းတာဝန်ပေးခြင်း

၂။ မီးလောင်မှုဖြစ်ပေါ်ပါက ဝိုင်းဝန်းငြိမ်းသတ်ခြင်း။ အောက်ပါအတိုင်း အဖွဲ့များ ဖွဲ့စည်း ဆောင်ရွက်ပါမည်။

(က) မီးငြိမ်းသတ်ခြင်း

(ခ) အရေးကြီးပစ္စည်းများ သိမ်းဆည်းခြင်း၊ သယ်ယူခြင်း

(ဂ) ပြင်ပ အကူအညီ ရယူဆောင်ရွက်ခြင်း

(က)  မီးငြိမ်းသတ်ခြင်း

စက်ရုံနယ်နမိတ်အတွင်း မည်သည့်နေရာတွင်မဆို မီးလောင်မှု ဖြစ်ပွားခဲ့လျှင် မီးလောင်မှု ဖြစ်ပွားသည်ကို စတင်မြင်တွေ့ သိရှိသူသည် "မီးလောင်နေပြီ၊ မီးလောင်နေပြီ"ဟု အော်ဟစ်၍ မီးလန့် သံချောင်းခေါက်ခြင်း၊ မီးလောင်မှုဖြစ်သည့် အဆောင်သို့ သွယ်တန်းထားသည့် ဓါတ်အားလိုင်း၊ မီးလိုင်းအား မိန်းခလုတ်ပိတ်ခြင်း၊ ရေတင်ကားများဖြင့် မီးလောင်မှုဖြစ်သည့်နေရာသို့ ချက်ခြင်းလာရောက် ငြိမ်းသတ်ခြင်းဖြင့် ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(ခ)  အရေးကြီးပစ္စည်းများ သိမ်းဆည်းခြင်း၊ သယ်ယူခြင်း

စက်ရုံ၏ ဌာနများ၊ ရုံးများသည် မီးလောင်မှု ပေါ်ပေါက်လာပါက ဦးစားပေးသယ်ယူရမည့် ပစ္စည်းများ၊ စာရွက်စာတမ်းများအား လူအင်အား၊ စက်ရုံပိုင်ယာဉ်များဖြင့် အမြန်ဆုံးပြောင်းရွှေ့နိုင်အောင် စီမံထားရှိပါသည်။ ရုံးအတွင်းနှင့် စက်ရုံအတွင်း၌ လည်း "မီးလောင်လျှင်ဦးစားပေးသယ်ရန်" ဟူသော သတိပေးစာတမ်းများ ချိတ်ဆွဲ၍ ဆောင်ရွက်သွားပါမည်။ ဦးစားပေးသယ်ယူရန် အဆင့်သတ်မှတ်ခြင်းများကို ကြိုတင်ပိုင်းခြားသတ်မှတ်ထားပါသည်။

(ဂ)  ပြင်ပအကူအညီ ရယူဆောင်ရွက်ခြင်း

မီးလောင်လျှင် အမြန်ငြိမ်းသတ်နိုင်ရန် အဖွဲ့ခွဲများဖြင့် တာဝန်သတ်မှတ် ဆောင်ရွက်စေမည်ဖြစ်ပြီး၊ ကွပ်ကဲရေးနှင့် ဆက်သွယ်ရေးဌာနချုပ်နေရာတစ်ခု သတ်မှတ်၍ ပင်မကြီးကြပ်ကွပ်ကဲရေးအဖွဲ့ကို ဖွဲ့စည်းဆောင်ရွက်ပါမည်။ ၄င်းမှတဆင့် အုပ်ချုပ်ထောက်ပံ့မှု ပြင်ပအဖွဲ့နှင့် ဆက်သွယ်ရေးအဖွဲ့များ ဖွဲ့စည်းပြီး နောင်ချိုမြို့နယ်၊ ပြင်ဦးလွင်မြို့နယ် မီးသတ်တပ်ဖွဲ့များနှင့် ဆက်သွယ်၍ အကူအညီများ ရယူဆောင်ရွက်သွားမည် ဖြစ်ပါသည်။ အဖွဲ့ခွဲ၊ အဖွဲ့ငယ်များ အဆင့်ဆင့် ဖွဲ့စည်း၍ အဖွဲ့တစ်ခုချင်းအား လုပ်ဆောင်ရမည့် လုပ်ငန်းတာဝန်များကို သီးခြား သတ်မှတ်၍ တာဝန်ပေး ဆောင်ရွက်သွားမည် ဖြစ်ပါသည်။



# ငွေရည်ပုလဲကုမ္ပဏီအုပ်စု

# ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်

## အမှတ် (၃) သကြားစက်ရုံ စီမံကိန်း

## လုပ်သားများ၏ လူမှုဖူလုံရေးနှင့်

## သက်သာချောင်ချိမှု အစီအမံ

၂၀၁၈ ခုနှစ်၊ ဩဂုတ်လ


NGWE YI PA LÈ SUGAR CO., LTD. SINN SHWE LI WHITE SUGAR

NO. (62), 15th STREET, BET (87-88) STREET, MANDALAY. TEL: 02-31941, 09-91007169
NO. (157), 33rd STREET, BET (75-76) STREET, MANDALAY, MYANMAR. TEL: 02-71424

ငွေရည်ပုလဲတုမ္ပဏီအုပ်စု
ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်
အမှတ် (၃) သကြားစက်ရုံ စီမံကိန်း
ဝန်ထမ်းများ၏ လူမှုဖူလုံရေး၊ သက်သာချောင်ချိမှု အစီအမံ

**နိဒါန်း**

၁။ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်သည် ရှမ်းပြည်နယ်၊ ကျောက်မဲခရိုင်၊ နောင်ချိုမြို့နယ်တွင် တစ်ရက်လျှင် ကြံတန်ချိန် (၁၂၀၀၀)ကြိတ်ဝါးနိုင်သည့် အမှတ် (၃)သကြားစက်ရုံ စီမံကိန်းအား အောက်ဖော်ပြပါ ရည်ရွယ်ချက်များဖြင့် တည်ဆောက်လုပ်ကိုင်သွားမည် ဖြစ်ပါသည် -

(က) စိုက်ပျိုးရေးကို အခြေခံသည့် စက်မှုလုပ်ငန်းနှင့် ဆက်စပ်သော မြန်မာ့စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ကဏ္ဍတွင် တက်ကြွစွာပါဝင် ဆောင်ရွက်ရန်
(ခ) သကြားနှင့် အခြားဆက်စပ်ပစ္စည်းထုတ်ရန် လုပ်ငန်းများတွင် လက်ရွေးစင်ကုမ္ပဏီအဖြစ် ရေရှည်ရပ်တည်ဆောင်ရွက်သွားရန်
(ဂ) ကုမ္ပဏီ၏ အကျိုးစီးပွားနှင့် ဒေသခံ တောင်သူများ၏ လူမှုဘဝ အတူတကွ တိုးတက်ဖြစ်ထွန်းရန်

**ဝန်ထမ်းခန့်အပ်ခြင်းနှင့် လေ့ကျင့်သင်ကြားခြင်း**

၂။ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်အနေဖြင့် အမှတ် (၃) သကြားစက်ရုံအတွက် ဝန်ထမ်းဦးရေ (၅၃၈)ဦးအား ရွေးချယ်ခန့်အပ်၍ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ပါသည် -

| စဉ် | ရာထူး အဆင့် | ဝန်ထမ်း (ဦးရေ) | | |
|---|---|---|---|---|
| | | မြန်မာနိုင်ငံသား | နိုင်ငံခြားသား | စုစုပေါင်း |
| ၁။ | အကြီးတန်းစီမံခန့်ခွဲမှု (အဆင့်မြင့်အရာရှိများ၊ မန်နေဂျာများ) | ၂ | | ၂ |
| ၂။ | အခြားအဆင့်စီမံခန့်ခွဲမှု (အကြီးတန်းစီမံခန့်ခွဲမှုအပ) | ၃ | | ၃ |
| ၃။ | သက်မွေးဝမ်းကျောင်း ပညာရှင်များ | ၁၃ | | ၁၃ |
| ၄။ | နည်းပညာနှင့် ဆက်စပ်သည့် သက်မွေးပညာရှင် | ၆၅ | | ၆၅ |
| ၅။ | အကြံပေး | | ၃၅ | ၃၅ |
| ၆။ | ကျွမ်းကျင်လုပ်သား | ၁၅၅ | | ၁၅၅ |
| ၇။ | အခြေခံလုပ်သား | ၂၆၅ | | ၂၆၅ |
| | စုစုပေါင်း | ၅၀၃ | ၃၅ | ၅၃၈ |

၃။ ဝန်ထမ်းများအား ရွေးချယ်ခန့်အပ်ရာတွင် လူ့စွမ်းအားအရင်းအမြစ်ဖွံ့ဖြိုးတိုးတက်ရေးဌာန (Human Resource Department)နှင့် စီမံရေးရာဌာန (Administration Department)တို့မှ လုပ်ကွက်တည်ရှိရာဒေသမှ ဒေသခံပြည်သူများအား လူမှုဘဝမြှင့်တင်နိုင်ရန်ရည်ရွယ်ပြီး အဓိကဦးစားပေးရွေးချယ်၍ အလုပ်ခန့်အပ်သွားမည် ဖြစ်ပါသည်။

၄။ လေ့ကျင့်သင်ကြားပေးရာတွင်လည်း လုပ်ငန်းခွင်အတွင်း ကျွမ်းကျင်ပညာရှင်များမှ မွမ်းမံသင်တန်းပေးခြင်း၊ လုပ်ငန်းခွင်ပြင်ပမှ ကျွမ်းကျင်ပညာရှင်များအား အချိန်ပိုင်းငှားရမ်း၍ ဒေသခံပြည်သူများအား သင်တန်းဖွင့်လှစ် သင်ကြားပေးခြင်းများအား စီမံဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၅။ အလုပ်အကိုင်တိုးမြှင့်ပေးရာတွင်လည်း လုပ်ငန်းကျွမ်းကျင်မှု၊ လုပ်သက်စသည့် လုပ်ငန်းဆောင်ရွက်မှုစသည့် အရည်အချင်းများအပြင် ဒေသခံဖြစ်မှုအချက်ကိုပါ ထည့်သွင်းသုံးသပ် စဉ်းစားသွားမည် ဖြစ်ပါသည်။

**လူမှုဖူလုံရေးအစီအမံ**

၆။ ဝန်ထမ်းများ၏ လစာငွေမှ ကျန်းမာရေးနှင့် လူမှုရေးစောင့်ရှောက်မှု အာမခံစနစ်(မမာမကျန်းမှု၊ မီးဖွားမှု၊ သေဆုံးမှု)နှင့် မိသားစုထောက်ပံ့မှုအာမခံစနစ် (ပညာသင်ထောက်ပံ့ကြေး၊ သဘာဝဘေးအန္တရာယ်)များအတွက် (၂%)အား လစဉ်ခုနှိမ်၍ သက်ဆိုင်ရာလူမှုဖူလုံရေးရုံးသို့ မပျက်မကွက် ပေးသွင်းမည် ဖြစ်ပါသည်။

၇။ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်မှလည်း ဝန်ထမ်းများအတွက် ကျန်းမာရေးနှင့် လူမှုရေးစောင့်ရှောက်မှု အာမခံစနစ်(မမာမကျန်းမှု၊ မီးဖွားမှု၊ သေဆုံးမှု)နှင့် မိသားစုထောက်ပံ့မှုအာမခံစနစ် (ပညာသင်ထောက်ပံ့ကြေး၊ သဘာဝဘေးအန္တရာယ်)များအတွက် (၂%)၊ အလုပ်တွင်ထိခိုက်မှု အကျိုးခံစားခွင့် အာမခံစနစ်အတွက် (၁%)၊ စုစုပေါင်း (၃%)အား သက်ဆိုင်ရာလူမှုဖူလုံရေးရုံးသို့ လစဉ် မပျက်မကွက်ပေးသွင်းမည် ဖြစ်ပါသည်။

၈။ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်နှင့် ဝန်ထမ်းများမှ အောက်ပါအတိုင်း လူမှုဖူလုံရေးကြေး လစဉ်ပေးသွင်း ဆောင်ရွက်သွားမည် ဖြစ်ပါသည်-

| | အာမခံစနစ်များ | ထည့်ဝင်မည့် (ရာခိုင်နှုန်း) | | |
|---|---|---|---|---|
| | | ကုမ္ပဏီ | ဝန်ထမ်း | စုစုပေါင်း |
| (က) | ကျန်းမာရေးနှင့် လူမှုရေး စောင့်ရှောက်မှု အာမခံစနစ် (မမာမကျန်းမှု၊ မီးဖွားမှု၊ သေဆုံးမှု) နှင့် မိသားစုထောက်ပံ့မှုအာမခံစနစ် (ပညာသင်ထောက်ပံ့ကြေး၊ သဘာဝဘေးအန္တရာယ်) | ၂% | ၂% | ၄% |
| (ခ) | အလုပ်တွင်ထိခိုက်မှု အကျိုးခံစားခွင့် | ၁% | | ၁% |
| | စုစုပေါင်း | ၃% | ၂% | ၅% |

၉။ လူမှုဖူလုံရေးထည့်ဝင်ထားသူဝန်ထမ်းများ၏ လူမှုဖူလုံရေး အကျိုးခံစားခွင့်များ ရရှိခံစားနိုင်ရေးအတွက်လည်း ကုမ္ပဏီ၏ လူ့စွမ်းအားအရင်းအမြစ်ဖွံ့ဖြိုးတိုးတက်ရေးဌာန (Human Resource Department)မှ တာဝန်ယူ ချိတ်ဆက်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

**ဝန်ထမ်းသက်သာချောင်ချိရေး**

၁၀။ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်၊ အမှတ် (၃) သကြားစက်ရုံတွင် တာဝန်ထမ်းဆောင်သူ ဝန်ထမ်းများ၏ မင်္ဂလာဆောင်အတွက် ကုမ္ပဏီမှ လက်ဖွဲ့ငွေ သတ်မှတ်၍ ချီးမြှင့် ပေးအပ်သွားမည် ဖြစ်ပါသည်။

၁၁။ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်၊ အမှတ် (၃) သကြားစက်ရုံတွင် တာဝန်ထမ်းဆောင်သူ ဝန်ထမ်း ကိုယ်တိုင်ကွယ်လွန်ခြင်း၊ ဝန်ထမ်း၏ မိဘ/သားသမီး ကွယ်လွန်ခြင်း၊ ဝန်ထမ်း၏ ဇနီး/ခင်ပွန်း ကွယ်လွန်ခြင်းများ အတွက်လည်း ကုမ္ပဏီမှ နာရေးထောက်ပံ့ငွေ သတ်မှတ် ပေးအပ်သွားမည် ဖြစ်ပါသည်။

၁၂။ အမှတ် (၃) သကြားစက်ရုံတွင် တာဝန်ထမ်းဆောင်သူ အမျိုးသမီးဝန်ထမ်း မီးဖွားခြင်း၊ အမျိုးသားဝန်ထမ်း၏ ဇနီး မီးဖွားခြင်းများအတွက်လည်း မီးဖွားစရိတ် ထောက်ပံ့ငွေများ ချီးမြှင့် ပေးအပ်သွားမည် ဖြစ်ပါသည်။

၁၃။ ဝန်ထမ်းအဆောင်များ၊ ဝန်ထမ်းအိမ်ယာများကိုလည်း စီမံရေးရာဌာန (Administration Department)မှ စနစ်တကျ နေရာချထားပေးသွားမည် ဖြစ်ပါသည်။

၁၄။ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက် ဆေးပေးခန်းထားရှိ၍ ကျန်းမာရေးစောင့်ရှောက်မှုများလည်း ဆောင်ရွက် သွားမည်ဖြစ်ပါသည်။

**နိဂုံး**

၁၅။ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်အနေဖြင့် အမှတ် (၃) သကြားစက်ရုံဝန်ထမ်းများ၏ လူမှုဖူလုံရေးနှင့် သက်သာချောင်ချိရေးကိစ္စရပ်များအတွက် လူ့စွမ်းအားအရင်းအမြစ်ဖွံ့ဖြိုးတိုးတက်ရေးဌာန (Human Resource Department)နှင့် စီမံရေးရာဌာန (Administration Department)များအား စနစ်တကျဖွဲ့စည်း၍ ကြပ်မတ် ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ဒါရိုက်တာအဖွဲ့

ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်

# NGWE YI PALE SUGAR COMPANY LIMITED

Registration No. 5665/2013-2014 (3.3.2014)

## FINANCIAL STATEMENT

## ( 2017-2018) Financial Year

1. Statement of Financial Position
2. Statement of Comprehensive Income

## Ngwe Yi Pale Sugar Company Limited

## Statement of Financial Position as at 31st March, 2018

| 2016-2017 | | | | 2017-2018 |
|---|---|---|---|---|
| Amount Kyat | Particular | Folic | Details | Amount Kyat |
| | Assets | | | |
| 28,297,038,136 | Non-Current Assets | Note 1 | | 28,670,973,760 |
| | Current Assets | | | 53,966,437,429 |
| 17,464,174,875 | Inventory | Note 2 | 25,199,468,959 | |
| 887,189,424 | Cash & Cash Equivalent | Note 3 | 3,034,973,210 | |
| 577,500 | Prepayments | Note 4 | 37,219,912 | |
| 141,872,440 | Advanced Payment | Note 5 | 441,116,922 | |
| - | Other receivables | Note 6 | 25,188,269,698 | |
| - | Investments | Note 7 | 65,388,728 | |
| 46,790,852,375 | | | | 82,637,411,189 |
| | Capital & Liabilities | | | |
| 40,000,000,000 | Authorised Share Capital | Note 8 | | 40,000,000,000 |
| 7,695,000,000 | Issued & Paid up Share Capital | Note 9 | | 7,695,000,000 |
| 1,500,000,000 | Advance Share Capital | | | 1,500,000,000 |
| 6,911,013,975 | Retained Earning | Note 10 | | 10,301,508,801 |
| | Current Liabilities | | | 63,140,902,388 |
| 4,125,839,986 | Account Payable-Trade | Note 11 | 11,584,931,669 | |
| 3,290,490,481 | Bank Loan MAB | Note 12 | 125,803,376 | |
| 3,613,302,117 | Adv; Received | Note 13 | 27,141,328,377 | |
| 2,503,978,712 | Payable for Machine | Note 14 | 7,500,602,178 | |
| 403,024,100 | Other Payables | Note 15 | 99,119,725 | |
| 15,458,743,234 | Inter Company Loan | Note 16 | 16,488,224,937 | |
| 34,378,160 | Payable Commerical Tax | | | |
| 255,081,610 | Payable on Income Tax | Note 17 | 200,892,128 | |
| 46,790,852,375 | | | | 82,637,411,189 |

